အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ

## ဦးဇောတာလင်္ကာရ

# ဘာသာရေးပြဿနာ မေးဖြေရာ

အမေရိကန်နိုင်ငံ ကယ်လီဖိုးနီးယားပြည်နယ် ဟာ့မွန်ဗေးမြို့
ဓမ္မာနန္ဒဝိဟာရကျောင်းတိုက် အမေရိက ထေရဝါဒ ဗုဒ္ဓဘာသာအသင်းကြီးမှ
ထုတ်ဝေသော Dhammananda Newsletter ဓမ္မာနန္ဒစာစောင်မှ
အမေးအဖြေများ





## ပညာမနှင့် အာသီသ

ဂုဏ်တော်ဝေဖြာ၊ မြတ်ဗုဒ္ဓါ ဦးစွာ ရှိခိုးသည်။
မဂ်ဖိုလ်နိဗ္ဗာန်၊ ဓမ္မက္ခန်၊ ဆယ်တန် ပူဇော်သည်။
အရိယာရှစ်ဖြာ၊ မြတ်သံဃာ၊ ရှိစွာ ဦးညွှတ်သည်။
လမ်းညွှန်ပြလာ၊ မြတ်ဆရာ၊ ခါခါရိုကျိုးသည်။
ကျမ်းဂန်ရေးသား ဆရာများ၊ အားထားရိုညွှတ်သည်။
မေးမေးသမျှ ဆိုင်းမတွ ဖြေပြနိုင်ဖို့ရည်။
ပါဠိအဋ္ဌကထာ၊ မြတ်ဋီကာ၊ ကြည့်ကာရှုရသည်။
ထိုကျဲတွေလာ၊ ကျမ်းတွေပါ၊ ရံခါမှီးရသည်။
ဇောတမည်တွင်၊ ငါအရှင်၊ မှန်ပင် ဖြေတော့မည်။
ဘာသာရေးရာ၊ ပြဿနာ၊ ဖြေကာ ပြပါမည်။
အကြောင်းကိုစွဲ၊ မှည့်ခေါ်မြဲ၊ ကျမ်းနဲ့ နှုတ်တွဲမည်။
ဘာသာရေးပြဿနာ၊ မေးဖြေရာ၊ ကျမ်းမှာ တွင်တော့သည်။
ကျမ်းကိုးသာလေ ခိုင်မာစွာ၊ ဖွေရှာပြထားပြီ။
အလွယ်တကူ၊ ဖတ်ရှုသူ၊ ရယူနိုင်လေသည်။
စာရှုသူများ၊ ဉာဏ်ရည်ပွား၊ အားထားနိုင်ကြသည်။
စာရှုသူတွေ၊ ကျန်းမာစေ၊ ပေးဝေ မေတ္တာရည်။






U.Jotalankara

Dhammananda Vihara

17450, South Cabrillo Hwy

Half Moon Bay, California, U.S.A.

Tel : (650) 726-7604>113

E-mail : jota@tbsa.org

12,12,05

သို့
ဆရာတော် ဦးကေဇာဘာသ

# ဘာသာရေးပြဿနာ မေးဖြေရာ

## ဦးဇောတာလင်္ကာရ

အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ





## ပဏ္ဏာမနှင့် အာသီသ

ဂုဏ်တော်ဝေပြာ၊ မြတ်ဗုဒ္ဓါ ဦးစွာ ရှိခိုးသည်။
မဂ်ဖိုလ်နိဗ္ဗာန်၊ ဓမ္မက္ခန်း၊ ဆယ်တန် ပူဇော်သည်။
အရိယာရှစ်ဖြာ၊ မြတ်သံဃာ၊ ရှိစွာ ဦးညွှတ်သည်။
လမ်းညွှန်ပြလာ၊ မြတ်ဆရာ၊ ခါခါရိုကျိုးသည်။
ကျမ်းဂန်ရေးသား၊ ဆရာများ၊ အားထားရိုညွှတ်သည်။
မေးမေးသမျှ ဆိုင်းမတွ၊ ဖြေပြနိုင်ဖို့ရည်။
ပါဠိအဋ္ဌကထာ၊ မြတ်ဋီကာ၊ ကြည့်ကာရှုရသည်။
ထိုကျဉ်ထွေလာ၊ ကျမ်းတွေပါ၊ ရံခါမှီးရသည်။
ဇောတမည်တွင်၊ ငါအရှင်၊ မှန်ပင် ဖြေတော့မည်။
ဘာသာရေးရာ၊ ပြဿနာ၊ ဖြေကာ ပြပါမည်။
အကြောင်းကိုစွဲ၊ မှည့်ခေါ်မြဲ၊ ကျမ်းနဲ့ နှတ္တမည်။
ဘာသာရေးပြဿနာ၊ မေးဖြေရာ၊ ကျမ်းမှာ တွင်စေတော့သည်။
ကျမ်းကိုးသာဓက ခိုင်မာစွာ၊ ဖွေရှာပြထားပြီ။
အလွယ်တကူ၊ ဖတ်ရှုသူ၊ ရယူနိုင်လေသည်။
စာရှုသူများ၊ ဉာဏ်ရည်ပွား၊ အားထားနိုင်ကြသည်။
စာရှုသူတွေ၊ ကျန်းမာစေ၊ ပေးဝေ မေတ္တာရည်။

## ပုံနှိပ်မှတ်တမ်း

| | |
|---|---|
| စာမူခွင့်ပြုချက်အမှတ် | ၃၂၀၆၄၅၀၅၀၉ |
| မျက်နှာဖုံးခွင့်ပြုချက်အမှတ် | ၃၂၀၅၆၂၀၅၀၉ |
| အကြိမ် | ပထမအကြိမ် |
| ထုတ်ဝေသည့်ကာလ | အောက်တိုဘာ၊ ၂၀၀၅။ |
| အုပ်ရေ | ၁၀၀၀ |
| တန်ဖိုး | ၁၀၀၀ ကျပ် |
| မျက်နှာဖုံးဒီဇိုင်း | အံ့ဘွယ် (Star) |
| အတွင်းဖလင် | A7 Group |
| ကွန်ပျူတာစာစီ | Panda DTP |
| မျက်နှာဖုံးနှင့် အတွင်းပုံနှိပ်သူ | ဦးဇော်ထွန်းဝင်း<br>ဝင်းမြင့်ပုံနှိပ်တိုက် (၀၅၁၈၉)<br>အမှတ် ၂၄၆၊ လမ်း ၄၀၊<br>ကျောက်တံတားမြို့နယ်၊ ရန်ကုန်။ |
| ထုတ်ဝေသူ | ဦးတင်လှ၊ ဒီလှိုင်းစာပေ (၀၈၈)<br>အမှတ်(၁၃)၊ ဥက္ကလာသီရိလမ်း၊<br>မြောက်ဥက္ကလာပ၊ ရန်ကုန်။ |
| စီစဉ်သူ | မောင်ဝေဟာင် |

### စာအုပ်ရနိုင်မည့်နေရာ

ဒက်ခွိုထာရုံကျောင်းတိုက်
ကျိုက်ဝိုင်း၊ သမိုင်း၊
မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။
ဖုန်း-၆၅၁၇၆၄

# မာတိကာ

အကြောင်းအရာ စာမျက်နှာ

## မဟာသဒ္ဓမ္မဇောတိကဓဇ
## တက္ကသိုလ်သျှင်သီရိ(ဓမ္မာစရိယ၊ ဘီအေ)၏
## အမှာစာ

တစ်နေ့တွင် စာရေးသူ အလုပ်လုပ်ရာ နိုင်ငံတော် ပရိယတ္တိသာသနာ တက္ကသိုလ် ဗုဒ္ဓဒေသနာ ပြန့်ပွားရေးဌာနသို့ ဒီလှိုင်းစာပေမှ ဆရာကိုဝေဟင် ရောက်လာပါသည်။

ဆရာကိုဝေဟင်က စာရေးသူကို ဘာသာရေးပြဿနာ မေးဖြေရာ စာမူတစ်ခုနှင့် ထိုအမေးအဖြေကို ဖြေကြားပေးသော ဆရာတော်ဦးဇောတာလင်္ကာရ၏ အတ္ထုပ္ပတ္တိအကျဉ်းပါ စာအုပ်လေးတစ်အုပ်ကို ပေးပါသည်။ မိမိ ထုတ်ဝေမည့် ဤဘာသာရေးပြဿနာ မေးဖြေရာ စာအုပ်တွင် အမှာစာ၊ မိတ်ဆက်စာ ရေးပေးပါရန် မေတ္တာရပ်ခံခဲ့ပါသည်။

စာရေးသူက သူ့ကို ရေးပေးရန် ဝန်ခံလိုက်ပြီး သူပေးထားခဲ့သော ဘာသာရေးအဖြေလွှာနှင့် ဖြေဆိုသူ ဆရာတော်ဦးဇောတာလင်္ကာရ၏ အတ္ထုပ္ပတ္တိ၊ ဆရာတော်၏ ပညာအရည်အချင်း၊ ဆရာတော်

အား မေးမြန်းသူ၊ ဆရာတော်၏ ဖြေကြားမှုတို့ကို လေ့လာဖတ်ရှုမိပါသည်။

ဆရာတော်အား မေးမြန်းကြသော သိလိုသူများနှင့် ဆရာတော်၏ ဖြေကြားမှုတို့ကို လေ့လာဖတ်ရှုပြီးသောအခါ အတိတ်သမိုင်းကြောင်းများကို ပြန်လည်စဉ်းစားမိပါသည်။

ဘာသာရေးဆိုင်ရာ မေးမြန်းမှု၊ ဖြေဆိုမှုများသည် ဘုရားရှင်လက်ထက်ကပင် စတင်ခဲ့ပါသည်။ ဘုရားရှင် ဟောကြားခဲ့သော သုတ်၊ ဝိနည်း၊ အဘိဓမ္မာတို့တွင် သုတ္တန်ဟူသည် နတ်၊ ဗြဟ္မာ၊ ဘီလူး၊ ပုဏ္ဏား၊ ရသေ့ရဟန်း စသည်တို့က မေး၍ ဘုရားရှင်က ဖြေဆိုပေးသော တရားတော်များ အများဆုံး ပါဝင်ခဲ့ပါသည်။

ဥပမာ- မထင်မရှားသော နတ်သားက မေး၍ ဘုရားရှင်က မင်္ဂလာတရားများ၊ သူယုတ်မာ (ဝသလသုတ်) တရားများ၊ ပျက်စီးကြောင်း (ပရာဘာဝ) တရားတို့ကို ဖြေရှင်းဟောကြားပြသခဲ့ပါသည်။

အဇာတသတ်မင်းက မေး၍ ရဟန်းတရားအကျိုးနှင့် မဂ်ဖိုလ်အကျိုးတို့ကို သာမညဖလသုတ်တွင် ဖြေရှင်းဟောကြားပေးခဲ့ပါသည်။

သုဘလုလင်က မေး၍ ရုပ်လှ မလှ၊ ချမ်းသာ ဆင်းရဲ၊ ပညာရှိ ပညာမဲ့ ဖြစ်ရခြင်းအကြောင်းကို ဖြေရှင်းဟောကြားပေးခဲ့ပါသည်။

သိင်္ဂါလသတို့သားက မေး၍ ဆရာကျင့်ဝတ်၊ မိဘကျင့်ဝတ်၊ တပည့်ကျင့်ဝတ်၊ သားသမီးကျင့်ဝတ် စသည်တို့ကို ဖြေရှင်းဟောကြားပေးခဲ့ပါသည်။

ကေသပုတ္တိရွာ ပုဏ္ဏားများက မေး၍ လွတ်လပ်စွာ တွေးခေါ်ပိုင်ခွင့်နှင့် ဘယ်ဟာ ကုသိုလ်၊ ဘယ်ဟာ အကုသိုလ်တို့ကို ဖြေရှင်းဟောကြားပေးခဲ့ပါသည်။

အာဠာဝကဘီလူးက မေး၍ လူတို့၏ ကြီးပွားမှုတရား၊ သံသရာကူးမြောက်မှုတရားတို့ကို ဖြေရှင်းဟောကြားပေးခဲ့ပါသည်။

အလားတူ အမေး အဖြေများစွာတို့သည် ဗုဒ္ဓ၏ ပိဋကတ်သုံးပုံ၌ များစွာ ရှိနေပါသည်။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံပြီးနောက် မကြာခင်ပင် ပါယာသိမြို့စားက လူ့အသက် တွက်မှုနှင့် ပတ်သက်၍ အမေးကို ရှင်ကုမာရကဿပက ဖြေကြားခဲ့သော ပါယာသိရာဇညသုတ်သည် ထင်ရှားပါသည်။

ထိုနောက် ဘုရားရှင် ပရိနိဗ္ဗာန်စံဝင်ပြီး နှစ်ပေါင်း ၅၀၀ ကျော်အကြာ ဘီစီ ၄၈၃ တွင် ပေါ်ထွန်းခဲ့သော မိလိန္ဒမင်းက ဘာသာရေးဆိုင်ရာ ခဲရာခဲဆစ်များ မေးသည်ကို ရှင်နာဂသေနရဟန္တာမထေရ်မြတ်က ဥပမာ ဥပမေယျ စုံလင်စွာဖြင့် ဖြေကြားပေးခဲ့သော မိလိန္ဒပဉှာကျမ်းသည် ပိဋကတ်စာပေသမိုင်းတွင် သမိုင်းမော်ကွန်းတင်ထားခဲ့ရပြီး သံဂါယနာတွင် သံဂါယနာတင်ကျမ်း တစ်စောင်အဖြစ် ထည့်သွင်းအသိအမှတ်ပြုခံခဲ့ရပါသည်။

သာလွန်မင်းလက်ထက် တောင်ဖီလာဆရာတော်၏ အမေးတော်ပုံ အဖြေကျမ်း၊ အလောင်းမင်းတရားလက်ထက် အတုလဆရာတော်ရှင်ယသ၏ နန်းစဉ်ပုစ္ဆာအဖြေကျမ်း၊ ထိုမင်းလက်ထက်ပင် လက်ဝဲနော်ရထာ လျှောက်ထား၍ ခင်ကြီးဖျော် တောင်တွင်းဆရာတော်အရှင်ဉာဏ ဖြေကြားသော လက်ဝဲနော်ရထာလျှောက်ထုံး အဖြေကျမ်း။ ကုန်းဘောင်ခေတ် ဘိုးတော်ဘုရားလက်ထက်တွင် ပထမမောင်းထောင်ဆရာတော် ရှင်ဉာဏ၏ အမေးတော် အဖြေကျမ်းနှင့် ပုစ္ဆာဝိသဇ္ဇနကျမ်း၊ ရွှေဘိုသီရိမာက မေး၍ ဒုတိယမုံရွေးဆရာတော် အရှင်အာဒိစ္စ

ရုံသီ ဖြေကြားတော်မူခဲ့သော သမန္တစက္ခုဒီပနီကျမ်းသည်လည်း အမေး ပြဿနာများကို ဖြေကြားပေးသော ကျမ်းစာတစ်စောင် ဖြစ်ပါသည်။

အလားတူ ကျည်းကန်ရှင်ကြီး မေး၍ ကျီးသဲဆရာတော် ရှင်ပုနိန္ဒဇ ဖြေကြားပေးခဲ့သော စွယ်စုံကျော်ထင်ကျမ်း၊ လုံးတော်ဆရာတော်၏ ပုစ္ဆာပကိဏ္ဏကကျမ်းများသည် ဗုဒ္ဓဘာသာဆိုင်ရာ ခဲရာခဲဆစ်များကို မေး၍ ပြောကြားဖြေရှင်း ဟောကြားပေးခဲ့သော တရားများ ဖြစ်ကြပါသည်။

ဤအမေးအဖြေများသည် မြန်မာနိုင်ငံတွင် မြန်မာတို့က မေး၍ ဆရာတော်များက ပြန်လည်ဖြေရှင်းပေးသော ပုစ္ဆာအဖြေကျမ်းများ ဖြစ်ကြပါသည်။

မြန်မာနိုင်ငံ သူ့ကျွန်လက်အောက် အရောက်တွင် လန်ဒန်ပါဠိအသင်းမှ လန်ဒန်ဒေဝီက မေး၍ လယ်တီဆရာတော်က ထိုမေးခွန်းများကို ပြန်လည်ဖြေပေးခဲ့သည်။ ထိုအမေးအဖြေများကို လယ်တီဆရာတော်၏ နိုင်ငံခြား ပုစ္ဆာမေးခွန်း အဖြေလွှာဟူ၍ စာအုပ်ရေးသား ရိုက်နှိပ်ထုတ်ဝေခဲ့ပါသည်။

ဤဘက်ခေတ်တွင် ဘာသာရေးဆိုင်ရာ စာစောင်များ ဖြစ်ကြသော ဗုဒ္ဓဓမ္မလောကစာစောင်၊ ဓမ္မဗျူဟာစာစောင်၊ မင်္ဂလာမောင်မယ်၊ မြစ်မခမဂ္ဂဇင်း၊ မြတ်ပန်းရဂုံမဂ္ဂဇင်း စသော ဘာသာရေးမဂ္ဂဇင်းများတွင် ဘာသာရေးဆိုင်ရာ အမေး အဖြေများ မေး၊ ဖြေထားသည်ကို တွေ့ရသည်။ မင်္ဂလာမောင်မယ်တွင် ဘာသာရေးဆိုင်ရာ အဖြေလွှာကို ဆရာတော်ဦးတိလောက(ရဝေထွန်း)က ဖြေကြားခဲ့ပြီး နောက် စုပေါင်းစာအုပ် ထွက်ခဲ့ပါသည်။

ဤသည်မှာ အတိတ်သမိုင်းကြောင်းမှ ဘာသာရေးဆိုင်ရာ အမေး အဖြေများ စာရေးသူ မှတ်မိသရွေ့ ရေးသားတင်ပြခြင်း ဖြစ်ပါသည်။

ယခု ဆရာတော်ဦးဇောတလင်္ကာရ၏ ဘာသာရေးအဖြေစာအုပ်မှာ ဘုရားရှင်လက်ထက်က ဗုဒ္ဓကို မယုံကြည်ကြသူများ၊ မိစ္ဆာဒိဋ္ဌိအယူရှိသူများက မေးသည်ကို ဗုဒ္ဓက ဖြေကြားပေးခဲ့သလို ဤဘက်ခေတ် ဗုဒ္ဓဘာသာအကြောင်းကို သိလိုသော၊ ဗုဒ္ဓဘာသာကို မထိတွေ့ဖူးသော အနောက်နိုင်ငံသားများ၏ ဗုဒ္ဓဘာသာဆိုင်ရာ အမေးကို လယ်တီဆရာတော်က ဖြေကြားပေးသလို ဆရာတော်အရှင်ဇောတလင်္ကာရသည် မိမိ အမေရိကန်၌ သာသနာပြု ဟောပြောရှင်းလင်းပြရာတွင် သိလိုသူများ မေးလာသော ဗုဒ္ဓဘာသာဆိုင်ရာ မေးခွန်းများကို ဗုဒ္ဓဘာသာရှုထောင့်မှ ရှင်းလင်းစွာ သိမြင်နားလည်စေရန် လွယ်ကူသော ဝေါဟာရတို့ဖြင့် ဖြေရှင်းပေးထားသော အမေး အဖြေများ ဖြစ်ကြပါသည်။

ယခု စုစည်းထုတ်ဝေလိုက်သည့် ဤဘာသာရေးဆိုင်ရာ နိုင်ငံခြား ပုစ္ဆာ အဖြေလွှာစာအုပ်တွင် ဖြေကြားပေးသော ဘာသာရေးဆိုင်ရာ မေးခွန်းနှင့် ဆရာတော်၏ ဖြေကြားချက်များသည် နိုင်ငံရပ်ခြားနေသူများသာမက မြန်မာနိုင်ငံရှိ မိရိုးဖလာ ဗုဒ္ဓဘာသာများအတွက်ပါ ရှင်းလင်း နားလည်နိုင်၊ သိနိုင်၊ အကျိုးရှိနိုင်သော အဖြေကောင်းများ (ဝါ) ဘာသာရေး လမ်းညွှန်ဖြေရှင်းချက်များ ဖြစ်နေပါသည်။

သို့အတွက် ဤမေးခွန်းများကို ဖြေကြားပေးသူ ဆရာတော်ဦးဇောတလင်္ကာရနှင့် ထုတ်ဝေသူ ဒီလှိုင်းစာပေတိုက်မှ ဦးဝေဟောင်သည် သဗ္ဗဒါနံ ဓမ္မဒါနံဇိနာတိဆိုသည့်အတိုင်း အမြတ်ဆုံး တရားအလှူကို လှူသူများဟု ဆိုရပါမည်။

ဗုဒ္ဓဘာသာဝင် အများစုသည်လည်း မိမိတို့ ဗုဒ္ဓဘာသာ မိရိုးဖလာအဆင့်မှ လွန်မြောက်ပြီး သဒ္ဓါမိက ပြဋ္ဌာန်းသော ဗုဒ္ဓဘာသာဖြစ်စေရန် ဤစာအုပ်က အထောက်အကူပြုသင့်သလောက် ပြုမည်ဖြစ်ပါ၍ လေ့လာဖတ်ရှု မှတ်သားသင့်ပါကြောင်း တိုက်တွန်းနှိုးဆော်လမ်းညွှန်မှု ပြုရပါတော့သည်။

မဟာသဒ္ဓမ္မဇောတိကဓဇ
တက္ကသိုလ်သျှင်သီရိ
(ဓမ္မာစရိယ၊ ဘီအေ)

# နိဒါန်းသွယ်ကာ ကြောင်းခြင်းရာ

စာရေးသူသည် အမေရိကန်နိုင်ငံ ကာလီဖိုးနီးယားပြည်နယ်၊ ဟာ့မွန်း ဗေးမြို့၊ ဓမ္မာနန္ဒဝိဟာရကျောင်းတိုက် အမေရိက ထေရဝါဒဗုဒ္ဓဘာသာ အသင်းကြီးမှ ထုတ်ဝေသော Dhammananda Newsletter ဓမ္မာနန္ဒစာစောင်၌ အင်္ဂလိပ်-မြန်မာ နှစ်ဘာသာဖြင့် ရေးသားရာတွင် 'ဘာသာရေးပြဿနာ မေးဖြေရာကဏ္ဍ' တစ်ခုလည်း ပါဝင်ပါသည်။

ထိုကဏ္ဍဝယ် ၁၉၉၇ ခုနှစ် ကဏ္ဍသစ် ဖွင့်လှစ်သည်က စ၍ ဘာသာရေးပြဿနာ မေးခွန်းများကို ဖြေကြားလာခဲ့ရာ ယနေ့တိုင် အောင်ပင် ဖြစ်ပါသည်။ 'ယင်း မေးဖြေလွှာများကို စုစည်း၍ စာအုပ် ရိုက်နှိပ်ထုတ်ဝေရလျှင် ရဟန်းရှင်လူများ အကျိုးရှိတန်ကောင်းရာ၏'ဟု တွေးခေါ်မိရာမှ ၁၃၆၆ ခုနှစ်၊ တပေါင်းလ (၂၀၀၅ ခု၊ မတ်လ) ၌ ကျောင်းရေစက်ချ ကိစ္စနှင့်ပတ်သက်၍ မြန်မာပြည်သို့ သွားရာတွင် အမြန်ရိုက်နှိပ်နိုင်ရန် စီစဉ်ခဲ့ပါသည်။

စာအုပ်အမည်ကို 'ဘာသာရေးပြဿနာ မေးဖြေရာ'ဟု အမည် ပေး၍ ဖြေကြားချက်များကိုလည်း အတတ်နိုင်ဆုံး ကျမ်းကိုးသာဓက များ ညွှန်ပြလျက် အောက်ခြေမှတ်ချက်များကိုလည်း ထည့်သွင်းထား ပါသည်။

ဤစာအုပ်ပါ စိတ်ဝင်စားဖွယ်ရာ မေးခွန်းနှင့် အဖြေတချို့ကို ဖော်ပြရလျှင်---

F3/

*ဘုရား တရား၊ ဤနှစ်ပါး ဘယ်ကား ဦးစွာပေါ်ခဲ့ပါသနည်း ?* (---)

တရားက ဦးစွာရှိနှင့်သော်လည်း ဘုရားရှင်ကသာ ဖော်ထုတ်ပေးနိုင်ခဲ့သောကြောင့် ဘုရားရှင်က ဦးစွာပေါ် ထွန်းခဲ့သည်ဟု ဆိုနိုင်ပါသည်။ (---)

***အချို့စေတီ၊ သိမ်တော်ဆီ၊ ဣတ္ထီ မဝင်ရ။***

ထိုအယူနော်၊ မသင့်လျော်၊ ကျမ်းတော်ဖွင့်ကာပြ။ (---)

***မကောင်းမှုမှန်၊ ကံသုံးတန်၊ ဘယ်ကံအပြစ်ကြီးဆုံးနည်း ?*** (---)

မကောင်းမှုမှန်၊ မနောကံ၊ ပြစ်ဒဏ် အကြီးဆုံးတည်း။ (---)

***(က) အိမ်ရှင်းသည့်တွက်၊ ယင် ပုရွက်၊ သေချက်ကံမြောက်ပါသလော ?*** (---)

အိမ်ရှင်းသည့်တွက်၊ ယင် ပုရွက်၊ သေချက် ကံ မမြောက်ပါ။

***(ခ) သူ့ကောင်းကျိုးတွက်၊ လိမ်လည်မြွက်၊ ပြစ်ချက်ရှိမည်လော?*** (---)

သူ့ကောင်းကျိုးတွက်၊ လိမ်လည်မြွက်၊ ပြစ်ချက်ရှိပါသည်။

ကျိုးမပြက်ငြား၊ ထိုမုသား၊ ပြစ်ကားမကြီးပြီ။ (---)

*(ဂ) ဒိဋ္ဌိစွဲကပ်၊ မစွဲကပ်၊ ချက်ကပ်မည်သို့လုပ်မည်နည်း ?* (---)

ဒိဋ္ဌိစွဲကပ်၊ မစွဲကပ်၊ ချက်ကပ်လုပ်ကြည့်ပါ။ (---)

*ပရိတ်တော်ကို၊ ရွတ်မဆို၊ စိတ်သိုထားရုံသာ၊*
*မိမိတောင့်တ၊ ကျိုးပြည့်ဝ၊ ရကြပါမည်လား ?* (---)

ပရိတ်တော်များ၊ စိတ်တွင်ထား၊ ရွတ်ကားမရွတ်လျှင်
လိုအပ်အကျိုး၊ မဖွံ့ဖြိုး၊ တန်ခိုးစွမ်းမထင်။ (---)

*သိလျက်လွန်ကျူး၊ မသိကျူးသည့်၊ နှစ်ဦးသူတွင်၊ ဘယ်လူရှင်၊ လွန်ပင်အပြစ်ကြီးသနည်း ?* (---)

မသိကျူးလျှင်၊ ထိုလူရှင်၊ လွန်ပင်အပြစ်ကြီးသတည်း။ (---)

*ဝါကျိုးဝါပျက်၊ ထည့်ရေတွက်၊ မတွက် သိလိုသည်၊ (---)*
ဝါကျိုးဝါပျက်၊ ထည့်ရေတွက်၊ ကျမ်းထွက်ညီပါသည်။ (---)

*ရဟန်းတော်များ၊ သက်သတ်စား၊*
*မတား ဘယ့်ကြောင့်နည်း? (---)*
ပိဋကသုံးဖြာ၊ ထူးမိန့်မှာ၊ မလာသောကြောင့်တည်း။ (---)

*ပျက်မြင်ဝါဒ၊ ပြောဆိုကြ၊ ဗုဒ္ဓဘာသာကို၊*
*ပြန်လည်ရှင်းရန်၊ မြတ်လမ်းမှန်၊ ညွှန်ကာပြစေလို။ (---)*
ဝိဘဇ္ဇဝါဒ၊ ခွဲကာပြ၊ ဗုဒ္ဓဘာသာဆို။ (---)
ကြောင်းကျိုးဆက်သွယ်၊ ဖြစ်ပျက်ခြယ်၊ ဆုံးဝယ်နိဗ္ဗာန်ကို။

စသည်ဖြင့် ထွေထွေရာရာ မှတ်သားလိုက်နာဖွယ်ရာများကို မေးဖြေထားသည် ဖြစ်၍ စာရှုသူများ ကျေနပ်နှစ်သက်ကြလိမ့်မည်ဟု မျှော်လင့်ပါသည်။

ဤစာအုပ် ရိုက်နှိပ်ထုတ်ဝေနိုင်ရန် စာမူဖတ်ပေးကြသော ဆရာတော်ဦးနန္ဒမာလာ၊ တက္ကသိုလ်သျှင်သီရိ(မဇ္ဈိမာစရိယ၊ ဘီအေ)၊ ဒေါ်အေးမြင့်(မဟာဝိဇ္ဇာ)နှင့် ပုံနှိပ်ထုတ်ဝေသူ မောင်ဝေဟင် (ဦးတင်လှ) တို့ကို လည်းကောင်း၊ ထောက်ပံ့လှူဒါန်းကြသော အမေရိကန်ပြည်ထောင်စုမှ ဒေါ်သန်းကြည်၊ ဦးကြည်ယုံ + ဒေါ်စိန် မိသားစု၊ ကိုဒေဒေး + မတင်တင်အေး မိသားစု၊ သွားဆရာဝန် Sonny Myint Phang & Evelyn Family၊ ကိုနေဝင်း + မယုယုမော် မိသားစု၊ ကိုခင်မင်း + မစန်းစန်း မိသားစု၊ ဦးအောင်ကြည် + ဒေါ်ခက်ဆက် မိသားစု၊ မြန်မာပြည်မှ ဦးကောင်းရင် + ဒေါ်အေးမြင့် မိသားစု၊ ဦးလှမြိုင် + ဒေါ်မြင့်မြင့် မိသားစု၊ ဦးကောက်ဟုန် + ဒေါ်ရင်ရင်မြင့် မိသားစုတို့အား လည်းကောင်း အထူးကျေးဇူးတင်ရှိပါကြောင်း မှတ်တမ်းတင်အပ်ပါသည်။

ဦးဇောတာလင်္ကာရ

၁၃၆၇ ခု၊ ကဆုန်လ (၂၀၀၅-ခု မေလ)

# ဘာသာရေးပြဿနာ မေးဖြေရာ

## နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

### ပဏာမနှင့် အာသီသ

ဂုဏ်တော်ဝေဖြာ၊ မြတ်ဗုဒ္ဓါ၊ ဦးစွာ ရှိခိုးသည်။
မဂ်ဖိုလ်နိဗ္ဗာန်၊ ဓမ္မကွန်၊ ဆယ်တန် ပူဇော်သည်။
အရိယာရှစ်ဖြာ၊ မြတ်သံဃာ၊ ရိုစွာ ဦးညွှတ်သည်။
လမ်းညွှန်ပြလာ၊ မြတ်ဆရာ၊ ခါခါရိုကျိုးသည်။
ကျမ်းဂန်ရေးသား၊ ဆရာများ၊ အားထားရိုညွှတ်သည်။
မေးမေးသမျှ၊ ဆိုင်းမတွ၊ ဖြေပြနိုင်ဖို့ရည်။
ပါဠိအဋ္ဌကထာ၊ မြတ်ဋီကာ၊ ကြည့်ကာရှုရသည်။
ထိုဤထွေလာ၊ ကျမ်းတွေပါ၊ ရံခါမှီးရသည်။
ဇောတမည်တွင်၊ ငါအရှင်၊ မှန်ပင် ဖြေတော့မည်။
ဘာသာရေးရာ၊ ပြဿနာ၊ ဖြေကာ ပြပါမည်။
အကြောင်းကိုစွဲ၊ မှည့်ခေါ်မြဲ၊ ကျမ်းနဲ့ နှတ္တာမည်။
ဘာသာရေးပြဿနာ၊ မေးဖြေရာ၊ ကျမ်းမှာ တွင်တော့သည်။
ကျမ်းကိုးသာဓက ခိုင်မာစွာ၊ ဖော်ရှာပြထားပြီ။
အလွယ်တကူ၊ ဖတ်ရှုသူ၊ ရယူနိုင်လေသည်။
စာရှုသူများ၊ ဉာဏ်ရည်ပွား၊ အားထားနိုင်ကြသည်။
စာရှုသူတွေ၊ ကျွန်းမာစေ၊ ပေးဝေ မေတ္တာရည်။

## ဘာသာရေးပြဿနာ မေးဖြေရာ

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

အမှတ် (၁)

(က) ဘုရား တရား၊ ဤနှစ်ပါး၊ ဘယ်ကား ဦးစွာပေါ်ခဲ့သနည်း ?

(ခ) သာသနာနှင့် ကြုံရ၊ ခွင့်ခါက၊ ဘဝတန်ဖိုး ဘာတွေနည်း ?

မေး ။ ။ အရှင်ဘုရား . .

*(က) ဘုရားနှင့် တရားတွင် မည်သည်က ဦးစွာ ပေါ်ထွန်းခဲ့ပါသလဲ ဘုရား ?*

*(ခ) မြတ်စွာဘုရား၏ သာသနာတော်ကြီးနှင့် ကြုံကြိုက်ရသော ဘဝ၏တန်ဖိုးကိုလည်း သိနားလည်လိုပါသည် ဘုရား ?*

*Kevin Kyauk (South San Francisco)*

ဖြေ ။ ။ (က) တရားက ဘုရားမပွင့်မီကပင် ရှိပါသော်လည်း ပညာရှိသူတော်စင်များက သံသရာမှာ လည်ပတ်နေရမည့် ဒါန သီလ သမထ

ဘာဝနာတရားများကိုသာ ဖော်ထုတ်ပေးနိုင်ခဲ့ကြပါသည်။ ဘုရားရှင်ကသာ သံသရာမှ လွတ်မြောက်ရာ လွတ်မြောက်ကြောင်း ဒါန သီလ သမထဝိပဿနာနှင့် မဂ်ဖိုလ် နိဗ္ဗာန်တရားတော်တို့ကို ဖော်ထုတ်ပေးတော်မူနိုင်ခဲ့ပါသည်။ ထို့ကြောင့် တရားက ဦးစွာရှိနှင့်သော်လည်း ဘုရားရှင်ကသာ ဖော်ထုတ်ပေးနိုင်ခဲ့သောကြောင့် ဘုရားရှင်က ဦးစွာပေါ်ထွန်းခဲ့သည်-ဟု ဆိုနိုင်ပါသည်။

**ဘုရား၊ တရား၊ ဤနှစ်ပါး၊ ဘုရား ဦးစွာပေါ်ထွန်းပါသည်။**

(ခ) မြတ်စွာဘုရား သာသနာနှင့် ကြုံကြိုက်မှသာ လောကမှ ထွက်မြောက်ရာ ထွက်မြောက်ကြောင်း တရားတော်များကို နာယူခြင်း၊ ကျင့်ကြံခြင်းဖြင့် မဂ်ဖိုလ် နိဗ္ဗာန်ကို ရယူနိုင်ပါသည်။ သာသနာတော်နှင့် မကြုံကြိုက်လျှင် မဂ်ဖိုလ် နိဗ္ဗာန် ရောက်ကြောင်း တရားကောင်းများကို နာယူနိုင်ခွင့် မရှိပါ။

ကုသိုလ်ကောင်းမှု ပြုလုပ်ရာ၌လည်း သာသနာတွင်း ပြုလုပ်သည့် ကုသိုလ်က သာသနာပအခါ၌ ပြုလုပ်သည့် ကုသိုလ်ထက် အကျိုးကြီးမားကြောင်းကို ဣန္ဒကနတ်သားနှင့် အင်္ကုရနတ်သားတို့၏ ဇာတ်လမ်းဖြင့် နားလည်နိုင်ပါသည်။ မြတ်စွာဘုရား တာဝတိံသာနတ်ပြည်၌ အဘိဓမ္မာတရားတော်ကို ဟောတော်မူစဉ်အခါက မြတ်စွာဘုရား၏ လက်ယာဘက်၌ မယ်တော်မိနတ်သားနှင့် ဣန္ဒကနတ်သားတို့ ထိုင်နေကြပြီး လက်ဝဲဘက်၌ အင်္ကုရနတ်သားသည် ထိုင်နေ၏။ မကြာမြင့်မီ တန်ခိုးကြီးသော နတ် ဗြဟ္မာများ ရောက်လာကြသောအခါ အင်္ကုရနတ်သားသည် နေရာမှဖဲခွာ၍ အလွန်ဝေးလှမ်းသောနေရာကျမှ ထိုင်ခွင့်ရတော့၏။ ဣန္ဒကနတ်သားကမူ နေမြဲတိုင်း နေရာ၌သာ ထိုင်နေ၏။ ထိုနတ်သားနှစ်ဦးတို့၏ ရှေးကောင်းမှုများကား. . .

အကုံရနတ်သားသည် ကဿပမြတ်စွာဘုရား၏ သာသနာတော် ကွယ်ပပြီးနောက် ငါတို့ဘုရား ပွင့်တော်မမူမီ ကြားကာလ သာသနာပ အခါ၌ အနှစ်တစ်သောင်းပတ်လုံး ၁၂-ယူဇနာ (၈၄-မိုင်ခန့်) အတွင်း ဝယ် ဖိုခနောက်ချင်းစပ်၍ အလှူကြီးများကို ပေးလှူခဲ့လေသည်။ ထို ကောင်းမှုများကြောင့် တာဝတိံသာနတ်ပြည်၌ နတ်သား ဖြစ်ရသော် လည်း သာသနာပအခါ၌ ပြုလုပ်ခဲ့သော ကောင်းမှု၏ အကျိုးဖြစ်ခြင်း ကြောင့် တန်ခိုးအရှိန်အဝါနည်း၍ မြတ်စွာဘုရား အဘိဓမ္မာတရားဟော တော်မူရာမှ အလွန်ဝေးကွာသောနေရာ၌ ထိုင်နေရရှာ၏။ ဣန္ဒက နတ်သားကတော့ အရှင်အနုရုဒ္ဓါမထေရ်အား တစ်ယောက်ချို (ဇွန်းကြီး တစ်ဇွန်းစာ) မျှသော ဆွမ်းကို ပေးလှူခဲ့၏။ သာသနာတွင်းအခါ၌ ပြုလုပ်ခဲ့သော ကောင်းမှုကြောင့် တာဝတိံသာနတ်ပြည်၌ တန်ခိုးကြီး သောနတ်သား ဖြစ်ရသည့်ပြင် မြတ်စွာဘုရား၏ လက်ယာနံပါးဘက် ဝယ် ဖယ်ရှားပေးစရာ မလိုဘဲ ထိုင်နေနိုင်၏။ ထို့ကြောင့် မြတ်စွာဘုရား က သာသနာတွင်းအလှူနှင့် သာသနာပအလှူ နှစ်မျိုးတို့၏ အကျိုးပေး ခြားနားပုံကို သိစေလိုသောကြောင့် နတ်သားနှစ်ဦးတို့အား မေးတော်မူ ပါသည်။

*မြတ်စွာဘုရား။ ။အချင်းအကုံရ. . . သင်သည် ကြာမြင့်စွာသော ကာလပတ်လုံး အလှူကြီးများကို ပေးလှူခဲ့ပါလျက် အဘယ့်ကြောင့် ငါဘုရားမှ ဝေးကွာသော အရပ်၌ ထိုင်နေရသနည်း ?*

အကုံရနတ်သား။ ။ မြတ်စွာဘုရား. . . တပည့်တော်က ကြီးကျယ် များပြားစွာ လှူခဲ့ရသော်လည်း မြင့်မြတ်သော အလှူခံပုဂ္ဂိုလ် မရှိဘဲ လှူခဲ့ရတာမို့ အဘယ်မှာ ကြီးကျယ်တဲ့အကျိုး ရနိုင်ပါ့မလဲဘုရား။

က္ကန္ဒကနတ်သားကတော့ မြင့်မြတ်တဲ့ပုဂ္ဂိုလ်အား အနည်းငယ်မျှပင် လှူရစေကာမူ ကြွယ်တာရာအပေါင်း၏ အလယ်မှာ ထွန်းလင်း တောက်ပတဲ့ လမင်းကဲ့သို့ တပည့်တော်တို့ထက် သာလွန်တင့်တယ် တောက်ပလှပါပေတယ်ဘုရား။

မြတ်စွာဘုရား။ ။အချင်းကဣန္ဒက. . . သင်က ငါဘုရား၏ လက်ယာ နံပါးဘက်၌ ထိုင်နေလျက် အရပ်တစ်ပါးသို့ မဖဲ သွားရဘဲ အဘယ့်ကြောင့် ထိုင်နေခြင်းငှာ စွမ်းနိုင် ပါသနည်း ?

ကဣန္ဒကနတ်သား။ ။ မြတ်စွာဘုရား. . . တပည့်တော်က လယ်မြေ ကောင်း၌ မျိုးစေ့အနည်းငယ်ကို စိုက်ပျိုးမိတဲ့ လယ်သမားကဲ့သို့ မြင့်မြတ်တဲ့ အလှူခံပုဂ္ဂိုလ်အား လှူဒါန်းခဲ့ရသည့်အတွက် ကြီးကျယ် မြင့်မြတ်တဲ့ အကျိုးများကို ရလို့ပါပဲဘုရား။

ဤမျှဖြင့် မြတ်စွာဘုရား၏ သာသနာတော်ကြီးနှင့် ကြုံကြိုက်ရ သော ဘဝ၏တန်ဖိုးကို နားလည်လောက်ပါပြီ။

**သာသနာနှင့်ကြုံရ၊ ခွင့်ခါက၊ ဘဝတန်ဖိုးကြီးပါသည်။**



## အမှတ် (၂)
## ဗုဒ္ဓဘာသာဝင်ဖြစ်ရန်နှင့် အဓိကအစောင့်တရား

မေး။ ။ အရှင်ဘုရား . . . ဗုဒ္ဓဘာသာဝင်တစ်ယောက် ဖြစ်ရန် မည်သည့်အရည်အချင်းများ လိုအပ်ပါသလဲဘုရား ? ဗုဒ္ဓ ဘာသာဝင်တစ်ယောက်အနေဖြင့် အဓိက စောင့်ထိန်းရ မည့် အကျင့်တရားများကိုလည်း သိလိုပါသည်ဘုရား ?

*Phillip (Daly City)*

ဖြေ။ ။ ဗုဒ္ဓဘာသာဝင်တစ်ယောက် ဖြစ်ရန် ဘုရား တရား သံဃာ ရတနာမြတ်သုံးပါးကို အမြတ်ဆုံးအနေဖြင့် ယုံကြည်၍ ကိုးကွယ် ဆည်းကပ်လိုသော စိတ်မှတစ်ပါး အခြား မည်သည့်အရည်အချင်းမှ မလိုပါ။

'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ' - မြတ်စွာဘုရားကို ကိုးကွယ်အားထားရာ ဟူ၍ ယုံကြည်လေးမြတ် ဆည်းကပ်ပါ၏။

'ဓမ္မံ သရဏံ ဂစ္ဆာမိ' - တရားတော်ကို ကိုးကွယ်အားထားရာ ဟူ၍ ယုံကြည်လေးမြတ် ဆည်းကပ်ပါ၏။

'သံဃံ သရဏံ ဂစ္ဆာမိ' - သံဃာတော်ကို ကိုးကွယ်အားထားရာ ဟူ၍ ယုံကြည်လေးမြတ် ဆည်းကပ်ပါ၏။

မိမိ ကြိုက်နှစ်သက်ရာ ဘာသာစကားအရ စိတ်ဖြင့် နှလုံးသွင်း၍ဖြစ်စေ၊ နှုတ်ဖြင့် ရွတ်ဆို၍ဖြစ်စေ ခံယူလျှင် ဗုဒ္ဓဘာသာဝင် ဖြစ်တော့သည်။ ယင်းဗုဒ္ဓဘာသာဝင်ကို ရတနာသုံးပါးကို ကိုးကွယ်ဆည်းကပ်တတ်သူ ဖြစ်သောကြောင့် 'ဥပါသကာ၊ ဥပါသိကာမ' ဟူ၍လည်း ခေါ်သည်။

ဗုဒ္ဓဘာသာဝင် တစ်ယောက်အနေဖြင့် အဓိကစောင့်ထိန်းရမည့် အကျင့်တရားမှာ ငါးပါးသီလ ဖြစ်ပါသည်။



## အမှတ် (၃)
## မြတ်စွာဘုရား၏ အနှစ်ထုတ်၍ အကျဉ်းချုပ်တရား။

မေး။ ။အရှင်ဘုရား. . . မြတ်စွာဘုရား ၄၅ ဝါပတ်လုံး ဟောကြားတော်မူအပ်သော တရားတော်များကို အနှစ်ထုတ်၍ အကျဉ်းချုပ် ရှင်းပြပေးတော်မူပါဘုရား ?

*Mabel Aung (San Jose)*

ဖြေ။ ။ မြတ်စွာဘုရား ၄၅ ဝါပတ်လုံး ဟောကြားတော်မူအပ်သော တရားတော်များကို အနှစ်ထုတ်လျှင် သစ္စာလေးပါးသာဖြစ်၍ အကျဉ်းချုပ် ပြရလျှင်-

(၁) မကောင်းမှုဟူသမျှကို မပြုလုပ်ရခြင်း။

(၂) ကောင်းမှုကုသိုလ်နှင့် ပြည့်စုံစေရခြင်း။

(၃) မိမိစိတ်ကို ဖြူစင်စေရခြင်း-ဟူ၍ ဤသုံးမျိုးသာ ဖြစ်၏။

**မကောင်းမှုရှောင်၊ ကောင်းမှုဆောင်၊ ဖြူအောင်စိတ်ကိုထား၊**
**ဘုရားတိုင်းသာ၊ ဟောမိန့်မှာ၊ သုံးဖြာ ဆုံးမစကား။[၁]**
**သဗ္ဗပါပဿ အကရဏံ၊ ကုသလဿ ဥပသမ္ပဒါ။**
**သစိတ္တ ပရိယောဒပနံ၊ ဧတံ ဗုဒ္ဓါန သာသနံ။**
**(ဒီ၊ ၂၊ ၄၂။ ခု၊ ၁၊ ၄၁။)**



[၁] သုတ်မဟာဝါ၊ မဟာပဒာနသုတ် (၄၂)၊ ဓမ္မပဒပါဠိတော်၊ ဂါထာနံပါတ် ၁၈၃

အမှတ် (၄)

အချို့စေတီ၊ သိမ်တော်ဆီ၊ ဣတ္ထိမဝင်ရ။ (အမျိုးသမီးနှင့် သိမ်)

မေး॥ ॥ အရှင်ဘုရား. . .

(က) မြန်မာနိုင်ငံရှိအချို့သောစေတီတော်များ၌ အမျိုးသမီးများ မဝင်ရန် ကန့်သတ်ထားသော နေရာများ ရှိပါသည်။

(ခ) အချို့သော ကျောင်းတိုက်များ၌လည်း သိမ်တွင်းသို့ အမျိုးသမီးများကို ဝင်ခွင့်မပေးပါ။ ထိုတားမြစ်ချက်များကို သိလိုပါသည်ဘုရား ?

*Myint Eindra Swe (Fremont)*

ဖြေ॥ ॥ (က) ကျိုက်ထီးရိုးစေတီတော်၊ ကျိုက္ခမီရေလယ်ဘုရား စသည်တို့၌ အမျိုးသမီးများ မဝင်ရန်၊ မတက်ရန် တားမြစ်ထားသော နေရာများ ရှိသည်ဟု သိရပါသည်။ အမျိုးသမီးများ ဝင်ရောက်လျှင် လေကြီးမိုးကြီး ကျတတ်သည်ဟု ပြောဆိုလေ့ရှိကြပါသည်။

တစ်ခါက ဟုတ်၊ မဟုတ် စမ်းသပ်သည့်အနေဖြင့် ဆရာတော်တစ်ပါးက မိမိ၏တပည့် မိန်းကလေးငယ်တစ်ယောက်အား ယောကျ်ားလေးကဲ့သို့ ဝတ်ဆင်စေပြီး ကျိုက်ထီးရိုးစေတီတော်တွင် အမျိုးသမီးများ မဝင်ရသော နေရာအထိ ခေါ်သွားသော်လည်း ဘာမျှမဖြစ်ကြောင်း ကြားဖူးပါသည်။

(ခ) သိမ်အတွင်းသို့လည်း အမျိုးသမီးများ ဝင်နိုင်ကြပါသည်။ မည်သူကမျှ မတားမြစ်ထိုက်ပါ။ တားမြစ်စေကာမူ ဝင်သူမှာ အပြစ်မရှိပါ။ ‘သိမ်’ ဟူသည် ‘သီမာ’ ဟူသော ပါဠိဘာသာမှ ဆင်းသက်လာသော မြန်မာ့ဝေါဟာရဖြစ်၍ ‘အပိုင်းအခြား’ ဟု အဓိပ္ပါယ်ရပါသည်။

ဥ တ်ကမ္ဘဝါစာဖြင့် မသမုတ်ရဘဲ အရှေ့၊ အနောက်၊ တောင်၊ မြောက် နယ်ပယ်အားဖြင့် ပိုင်းခြားသတ်မှတ်ထားသော ရွာတစ်ရွာသည်ပင် 'သိမ်တစ်ခု' ဖြစ်ပါသည်။ ဥ တ်ကမ္ဘဝါစာဖြင့် သမုတ်လျှင် အငယ်ဆုံး ၂၁ ပါး ထိုင်လောက်သော နေရာမှသည် အကြီးဆုံး ၃ ယူဇနာ (၂၁-မိုင်ခန့်) ကျယ်ဝန်းသော နေရာသည် 'သိမ်' ဖြစ်၏။ ဘုရားရှင်လက်ထက်တော်၌ ကျောင်းတိုက်ပေါင်း ၁၈ တိုက် ဝိုင်းပတ်ထားသော ရာဇဂြိုဟ်မြို့ကြီး တစ်မြို့လုံးကို ခြုံ၍ သိမ်သမုတ်ထားတော်မူခဲ့၏။[၂] သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ)၌ အရှင်မဟိန္ဒမထေရ်သည် အနုရာဓမြို့ကိုပါ ခြုံ၍ သိမ်သမုတ်ခဲ့၏။[၃] သိမ်အတွင်း ပါဝင်နေသော ရာဇဂြိုဟ်မြို့နှင့် အနုရာဓမြို့တို့မှာပင် မြို့သူမြို့သားတွေ အိမ်ထောင်သားမွေးမှုများကို ပြုနေခဲ့ကြသည်။ အမှန်တော့ အထက်ပါ တားမြစ်ချက် နှစ်မျိုးစလုံးသည် အရှေ့တိုင်းယဉ်ကျေးမှု ဓလေ့ထုံးစံမျှသာ ဖြစ်ပါသည်။ ထို့ကြောင့် အမျိုးသမီးများကို စေတီတော်များနှင့် သိမ်အတွင်းများသို့ 'မတက်ရ၊ မဝင်ရ' ဟု တားမြစ်ကန့်သတ်ထားသော နေရာမျိုးများ မရှိသင့်ပါ။

**ထိုအယူနော်၊ မသင့်လျော်၊ ကျမ်းတော် ဖွင့်ကာပြ။**



[၂] ရာဇဂဟံ ဟိ ပရိက္ခိပိတွာ အဋ္ဌာရသ မဟာဝိဟာရာ သဗ္ဗေ ကေသီမာ၊ ဓမ္မသေနာပတိနာ နေသံ သီမာ

အမှတ် (၅)
(က) ကံ၊ ကံ၏အကျိုး၊ ယုံကြည်ကိုး၊
ဆိုရိုး ဗုဒ္ဓဘာသာဝင်
(ခ) ကံယုံ ဆူးပုံမနင်းရ။

မေး။ ။ အရှင်ဘုရား . .

(က) ဗုဒ္ဓဘာသာဝင်တိုင်းဟာ ကံ၊ ကံ၏အကျိုးကို ယုံကြည်ရမည် ဆိုပါသည်။

(ခ) တစ်ဖန် 'ကံယုံ၍ ဆူးပုံမနင်းရ' ဟုလည်း ဆိုထားပြန်ပါသည်။ ထိုအယူအဆ နှစ်မျိုးကို ရှင်းပြတော်မူပါဘုရား ?

*Andy Win (Daly City)*

ဖြေ။ ။ (က) 'ကံ' ဟူသည် 'ကမ္မ'ဟူသော ပါဠိဝေါဟာရမှ ဆင်းသက်လာသော မြန်မာစကားဖြစ်၍ 'အမှု'ဟု အဓိပ္ပာယ်ရပါသည်။ ထိုအမှုသည် မိမိ၏ ကိုယ်၊ နှုတ်၊ နှလုံးတို့ဖြင့် ပြုလုပ်အပ်သော ကိစ္စအပေါ်မူတည်၍ ကောင်းသောစိတ် (စေတနာ) ဖြင့် ပြုလုပ်၊ ပြောဆို၊ ကြံစည်တွေးခေါ် လျှင် ကောင်းမှုကုသိုလ်ကံဖြစ်၍ မကောင်းသောစိတ် (စေတနာ) ဖြင့် ပြုလုပ်၊ ပြောဆို၊ ကြံစည်တွေးခေါ် လျှင် မကောင်းမှု အကုသိုလ်ကံဖြစ်ပါသည်။

ထိုကောင်းမှုကုသိုလ်ကံ၊ မကောင်းမှု အကုသိုလ်ကံတို့ကို ယုံကြည်ရမည်။ ထိုကောင်းမှုကုသိုလ်ကံ၏ ကောင်းကျိုးနှင့် မကောင်းမှုအကုသိုလ်ကံ၏ မကောင်းကျိုး (ကောင်းတာလုပ်လျှင် ကောင်းကျိုးရမည်၊ မကောင်းတာလုပ်လျှင် မကောင်းကျိုးရမည်) ကိုလည်း ယုံကြည်ရမည်။ ယင်းသို့ ယုံကြည်မှုကို ကံ၊ ကံ၏အကျိုးကို ယုံကြည်သည်ဟု ဆိုလိုသည်။

(ခ) 'ကံယုံ၍ ဆူးပုံမနင်းရ' ဟူသော မြန်မာစကားစုသည် အတိတ်ကံကိုချည်း အားကိုးယုံကြည်လွန်းသော သူများအတွက် ဖော်ညွှန်းသော စကားပင် ဖြစ်ပါသည်။ သတ္တဝါတိုင်းမှာ အတိတ်က ပြုခဲ့သော ကံများ ရှိသကဲ့သို့ လက်ရှိ ပစ္စုပ္ပန်ဘဝ၌ ပြုလုပ်သော ကံများလည်း ရှိကြပါသည်။ အတိတ်ကံသက်သက်ကိုသာ အားကိုးယုံကြည်ပြီး ဆူးပုံ နင်းလျှင်တော့ ဆူးစူးမှာ သေချာ၍ အတိတ်ကံကိုချည်း အားမကိုးဘဲ ကျားကန်ထောက်ပံ့ပေးမည့် ပစ္စုပ္ပန်ကံများကိုလည်း ဆက်လက်ပြုလုပ် သင့်ကြောင်း သတိပေးသည့် စကားပင် ဖြစ်ပါသည်။



## အမှတ် (၆)
## စတူဒီယိုအခန်းနှင့် ဘုရားစင်

*မေး ။ ။ အရှင်ဘုရား . . .*

*စတူဒီယိုအခန်းကို ငှားနေသူများသည် ဘုရားစင်ကို မည်သည့်နေရာထား၍ ပူဇော်သင့်ပါသလဲ ဘုရား ?*

*Andrew (Daly City)*

ဖြေ။ ။ စတူဒီယိုအခန်း ငှားနေသူများသည် မိမိအိပ်ရာ၏ ခြေရင်းဘက် မဟုတ်လျှင် မည်သည့် အမြင့်နေရာ၌မဆို ဘုရားစင်ထား၍ ပူဇော်နိုင်ပါသည်။ ရိုသေစွာ ပူဇော်မှုသာ လိုရင်းဖြစ်ပါသည်။ အထူးသဖြင့် မိမိနေရာ၏ ခေါင်းရင်းဘက် နေရာမြင့်မှာထား၍ ပူဇော်နိုင်လျှင် ပို၍သင့်လျော်ပါသည်။



## အမှတ် (၇)
## ဆွမ်းတော် သစ်သီး စားပုံနည်း၊ ထုံးမှီးပြစေချင်။

*မေး။ ။ အရှင်ဘုရား . .*

*ဘုရားဆွမ်းတော်တင်ရာ၌ အထူးသဖြင့် သစ်သီးများကို နှစ်ရက်၊ သုံးရက်ထားခြင်းသည် သင့်လျော်ပါသလား ဘုရား ?*

*ဆွမ်းတော်ချပြီးသော အစားအစာများကို မည်သို့ပြုလျှင် သင့်လျော်၍ မည်သို့ပြုလျှင် မသင့်လျော်ပါသလဲ? စားသင့် မစားသင့် ရှင်းလင်းဖြေကြားပေးပါဘုရား။*

*Ronnie Hui (Daly City)*

ဖြေ။ ။ 'ဘုရားဆွမ်းတော်တင်' ဟူသည် ဘုရားရှင်ကို ရည်စူးကာ လှူဒါန်းပူဇော်ခြင်းသာ ဖြစ်၍ 'သံဃာအား ကပ်လှူခြင်းမျိုး' မဟုတ်သောကြောင့် သစ်သီးများကို နှစ်ရက် သုံးရက်ထားခြင်းသည် သင့်လျော်ပါသည်။ မစွန့်မချင်း နေ့စဉ် ယင်းသစ်သီးများကိုပင် အကြိမ်ကြိမ်တင်လှူပူဇော်နေလျှင် ကုသိုလ်တိုးပွားနေမည်သာ ဖြစ်ပါသည်။

ဆွမ်းတော်ချပြီးသော အစားအစာများကို မိမိတို့အိမ်၌ ဖြစ်ပါက မိမိတို့ စားလိုက စားနိုင်ကြ၍ အခြားတိရစ္ဆာန်တို့အားလည်း ကျွေးမွေးနိုင်ပါသည်။ ဘုရားကျောင်းကန်၌ ဆွမ်းတော်ချ အစားအစာများကိုမူ တံမြက်စည်းလှည်းခြင်း စသော ဝေယျာဝစ္စတစ်ခုခုကို ပြုလုပ်ပြီးမှ စားသင့်ပါသည်။[၄] ဝေယျာဝစ္စ မပြုလုပ်ဘဲ မစားသင့်ပါ။



[၄] ဥပရိပဏ္ဏာသ အဋ္ဌကထာ (မ၊ ဋ္ဌ၊ ၄၊ ၂၂၅)

## အမှတ် (၈)

## ဝိပဿနာတရား၊ အကျဉ်းကား၊ သိပြားပါရစေ

မေး။ ။ အရှင်ဘုရား . . .

ဝိပဿနာတရားတော်ကို အကျဉ်းချုပ် ရှင်းပြပေးတော်မူပါ ဘုရား ?

*Sun Kyain (Fremont)*

ဖြေ။ ။ 'ဝိပဿနာ' ဟူသည် ဝိ - အထူးထူးအပြားပြား + ပဿနာ - ရှုမှတ်ခြင်း၊ ပစ္စုပ္ပန်အခိုက်ဝယ် မိမိ၏ခန္ဓာကိုယ်ရှိ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်ဟူသော တံခါးခြောက်ပေါက်သို့ ဝင်ရောက်လာသော အဆင်း၊ အသံ၊ အနံ့၊ အရသာ၊ အတွေ့၊ အတွေးဟူသော အာရုံခြောက်ပါးတွင် ထင်ထင်ရှားရှား ပေါ်ရာအာရုံကို မြင်လျှင် မြင်တယ်၊ ကြားလျှင် ကြားတယ်၊ နံလျှင် နံတယ်၊ စားလျှင် စားတယ်၊ ထိလျှင် ထိတယ်၊ တွေးလျှင် တွေးတယ် စသည်ဖြင့် ရှုမှတ်မှု မပြတ်ခြင်း (အစဉ်မပြတ် ပြောင်းလဲနေခြင်း) သဘော၊ ဆင်းရဲခြင်းသဘော၊ အလိုသို့မလိုက်၊ အစိုးမရ ငါပိုင် မဟုတ်ခြင်း သဘောအားဖြင့် ရှုမှတ်မှုတို့ကို ဝိပဿနာတရားဟု ခေါ်ပါသည်။

တစ်နည်းအားဖြင့် မိမိကိုယ်ကို ဆန်းစစ်ကြည့်လျှင် ခန္ဓာကိုယ် ခေါ်သည့် ရုပ်တရားနှင့် ယင်းကို မှီတွယ်နေသည့် စိတ်၊ စေတသိက် ခေါ်သည့် နာမ်တရားဟူ၍ နှစ်မျိုးသာရှိပါသည်။ ထိုရုပ်နာမ်နှစ်မျိုးမှ တစ်ပါး အတ္တကောင်၊ လိပ်ပြာကောင်၊ ငါကောင်ဟူ၍ မရှိပါ။ ထိုရုပ် နာမ်တို့၏ ခဏဖြစ်လျက် ခဏပျက်နေသည့် မတည်တံ့ မခိုင်မြဲတဲ့ သဘော၊ ဖြစ်ခြင်း ပျက်ခြင်းဖြင့် နှိပ်စက်ခံနေရတဲ့ သဘော၊ အနှစ်သာရ

ဘာတစ်ခုမျှ မရှိတဲ့ သဘောအားဖြင့် ရှုမှတ်မှုတို့ကို ဝိပဿနာတရား-ဟု ခေါ်သည်။

မြင် ကြား နံ စား၊ တွေ့သိများ၊ မမှား ရှုပါလေ။
ကြံစည် စဉ်းစား၊ တွေးစိတ်များ၊ မမှား ရှုပါလေ။
ခြောက်ဒွါရဋ္ဌ၊ ဖြစ်ပေါ်ခိုက်၊ စူးစိုက်ရှုပါလေ။
သူ ငါ မဟုတ်၊ နာမ်နှင့်ရုပ်၊ အဟုတ် သိအောင်ပွား။
နာမ် ရုပ် ထင်မြင်၊ သူ ငါစင်၊ ပါယ်ခွင် ငြိမ်းစေသား။
(မဟာစည်ဆရာတော်ဘုရားကြီး၏ ဆောင်ပုဒ်များ)

ဤကိုယ်ကာယ၊ တစ်လံမျှဋ္ဌ၊ နှစ်ဝနာမ်ရုပ်၊ ဖြစ်၍ချုပ်၏။ နာမ်ရုပ်နှစ်ပါး၊ အလွတ်ထား၍၊ ဤကား လိပ်ပြာ၊ ဤကား ငါတည်း၊ ဤမှာ ဇီဝ၊ ဤအတ္တဟု၊ ညွှန်ပြဖွယ်ရာ၊ မရှိပါသည်၊ နှစ်ဖြာနာမ်ရုပ်မျှသာတည်း။

နာမ်ရုပ်နှစ်ပါး၊ ဤတရားလည်း၊ ရှည်လျားကာလ၊ မတည်ထဘဲ၊ ခဏ ဖြစ်လျက်၊ ခဏပျက်၏၊ ဖြစ်ပျက်နှစ်တန်၊ နိုပ်စက်ဒဏ်ဖြင့်၊ တစ်ရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး၊ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သုညသဘာဝ၊ အနိစ္စနှင့်၊ ဒုက္ခ အနတ္တာ၊ မှန်လှစွာ၏၊ ငါ ငါ့ဥစ္စာ၊ ငါ့လိပ်ပြာတို့၊ ဘာတစ်ခုမျှ၊ မဟုတ်ကြသည်၊ ဓမ္မသက်သက်ပါတကား။

(မင်းကွန်းတိပိဋကဓရဆရာတော်ဘုရားကြီး၏တရားဆောင်ပုဒ်များ)



## အမှတ် (၉)

## ကျိုးမျှော် မမျှော်၊ အလှူတော်၊ ဘယ်သော် ပို၍ကောင်းသနည်း ?

မေး။ ။ အရှင်ဘုရား. . .

အလှူဒါန ပြုလုပ်ရာ၌ စေတနာသက်သက်ဖြင့် လှူဒါန်းခြင်းနှင့် အလှူမှရမည့် ကုသိုလ်အကျိုးကို မျှော်ကိုး၍ လှူဒါန်းခြင်း ဤနှစ်မျိုးတွင် မည်သည့်လှူဒါန်းခြင်းမျိုးက ပို၍မှန်ကန်အကျိုးရှိပါသလဲဘုရား ?

*Ronnie Hui (Daly City)*

ဖြေ။ ။ လောကဥပမာအားဖြင့် အလုပ်တစ်ခု ပြုလုပ်ရာဝယ် မိမိပြုလုပ်သော အလုပ်၏အကျိုးအမြတ်ကို သတိထား၍ ပြုလုပ်ခြင်းနှင့် သတိမထားဘဲ ပြုလုပ်ခြင်းတွင် မည်သည့်ပြုလုပ်ခြင်းက ပို၍သဘာဝကျပါသနည်း?. . . စဉ်းစားကြည့်ပါ။ ထို့အတူ အလှူဒါန ပြုလုပ်ရာမှာလည်း အလှူ၏အကျိုးကို မျှော်ကိုးစဉ်းစား သတိထား၍ လှူဒါန်းခြင်းနှင့် အလှူ၏အကျိုးကို သတိမထား မစဉ်းစားဘဲ လှူဒါန်းခြင်း ဤနှစ်မျိုးတွင် အလှူ၏အကျိုးကို မျှော်ကိုးစဉ်းစား သတိထား၍ လှူဒါန်းခြင်းက ပိုမိုသင့်မြတ်လျော်ကန်ပါသည်။ အကျိုးကို မျှော်ကိုးမှုဟူသည် မိမိပြုလုပ်သော အလုပ်၏ လိုလားအပ်သည့် ပန်းတိုင်ပင် ဖြစ်၏။ မျှော်ခေါ်တောင့်တမှု မရှိသော အလှူဒါနသည် ပန်းတိုင်မရှိသော အလုပ်ကဲ့သို့ဖြစ်၍ 'ကောင်းကင်သို့ ပစ်သော တုတ်သည် အရင်းဘက်မှ ပြန်ကျမလား၊ အလယ်မှ ပြန်ကျမလား၊ အဖျားဘက်မှ ပြန်ကျမလား မသိရသကဲ့သို့' အကျိုးပေး မတိကျလှပါ။

မိမိကိုယ်တိုင်က သဒ္ဓါ (ရတနာသုံးပါးနှင့်တကွ ကံ၊ ကံ၏အကျိုးကို ယုံကြည်မှု)၊ သီလ (သီလရှိမှု)၊ သုတ (အကြားအမြင်ရှိမှု)၊ စာဂ

(ပေးကမ်းစွန့်ကြဲမှု)၊ ပညာ (အသိဉာဏ်ရှိမှု)၊ ဤတရားငါးပါးနှင့် ပြည့်စုံ၍ ဆုတောင်းလျှင်၊ မိမိလိုချင်တဲ့အကျိုးကို တောင့်တလျှင် လိုချင်သည့်ဆု၊ လိုချင်သည့်အကျိုး ရနိုင်ပြည့်စုံနိုင်ကြောင်း၊ ကုသိုလ်ကောင်းမှု ပြုလုပ်ရာ၌ ဆုတောင်းသင့်ကြောင်းကို ဥပရိပဏ္ဏာသပါဠိတော်၊ အဋ္ဌကထာ၊ သင်္ခါရုပပတ္တိသုတ်နှင့် ယင်းသုတ်အဖွင့် [၁] ၌ ပြဆိုထားပါသည်။ သို့သော် အမြင့်မြတ်ဆုံးအကျိုးကိုသာ ရည်သန်မျှော်ကိုး၍ အလှူဒါန ပြုသင့်ပါ သည်။

**ကျိုးမျှော်၊ မမျှော် အလှူတော်၊ ကျိုးမျှော် ပို၍ကောင်းသတည်း။**



အမှတ် (၁၀)

မိမိကိုယ်ကို၊ အပ်နှင်းဆို၊ ဘယ်လို ဓိပ္ပါယ်ရှိသနည်း ?

*မေး။ ။ အရှင်ဘုရား . .*

*တပည့်တော်မ မြန်မာပြည် ရိပ်သာတစ်ခု၌ တရားစခန်းဝင်စဉ် ကမ္မဋ္ဌာန်းပြဆရာတော်က 'ယောဂီအနေနှင့် မိမိကိုယ်ကို ဘုရားရှင်အား အပ်နှင်းခိုင်းပါသည် ဘုရား'၊ ဘယ်လို အဓိပ္ပာယ်နှင့် အပ်နှင်းခိုင်းသည်ကိုတော့ ယခုတိုင် မသိပါ၍ ဖြေရှင်းပေးတော်မူပါဘုရား။*

*Than Than Htay (SanFrancisco)*

**အပ်နှင်း နှစ်မျိုး၊ ကျမ်းဂန်ကိုး၊ ဖြေရိုး ဤသို့ပါ။**

[၁] ဥပရိပဏ္ဏာသပါဠိတော် သင်္ခါရုပပတ္တိသုတ် (မ၊ ၃၊ ၁၄၀-၁၄၆)၊ ဥပရိပဏ္ဏာသ အဋ္ဌကထာ သင်္ခါရုပပတ္တိသုတ်အဖွင့် (မ၊ ၄၊ ၄၊ ၁၀၄)

ဖြေ။ ။ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ကျမ်းဂန်လာသည့်အတိုင်း ကမ္မဋ္ဌာန်း ပြဆရာတော်က ညွှန်ပြခြင်း ဖြစ်ပါသည်။ ကမ္မဋ္ဌာန်းတရား အားမထုတ်မီ မိမိကိုယ်ကို အပ်နှင်းခြင်းသည် (၁) ဘုရားရှင်အား အပ်နှင်းခြင်း (၂) ကမ္မဋ္ဌာန်းပြဆရာအား အပ်နှင်းခြင်းဟူ၍ နှစ်မျိုး ရှိပါသည်။

(၁) ဘုရားရှင်အား အပ်နှင်းပုံမှာ 'ရှင်တော်မြတ်ဘုရား. . . တပည့်တော်သည် ဤကိုယ်(အတ္တဘော)ကို ရှင်တော်ဘုရားအား စွန့်လှူပါ၏ ဘုရား' ဟုဆို၍ အပ်နှင်းရသည်။ ဤသို့ မအပ်နှင်းဘဲ အစွန်အဖျားကျသော ကျောင်းနေရာတို့၌နေသော ယောဂီသည် ကြောက်မက်ဖွယ် အာရုံထင်လာလျှင် ကြံ့ကြံ့မခံနိုင်သဖြင့် ယောဂီဘဝမှ လျှောကျပျက်စီးနိုင်၏။ မိမိကိုယ်ကို ဘုရားရှင်အား အပ်နှင်းထားသော ယောဂီမှာကား ကြောက်မက်ဖွယ်အာရုံ ထင်လာစေကာမူ ကြောက်ခြင်း မဖြစ်ပေါ်ပါ။ 'သင်သည် ရှေးမဆွကပင်လျှင် မိမိကိုယ်ကို ဘုရားရှင်အား အပ်နှင်းထားသည် မဟုတ်လော' ဟု ဆင်ခြင်ကာ ဝမ်းမြောက်ခြင်းသာလျှင် ဖြစ်ပါသည်။

(၂) ကမ္မဋ္ဌာန်းပြဆရာအား အပ်နှင်းပုံမှာ 'အရှင်ဘုရား. . . တပည့်တော်သည် ဤကိုယ်ကို အရှင်ဘုရားအား စွန့်လှူပါ၏ဘုရား' ဟုဆို၍ အပ်နှင်းရသည်။ ဤသို့ မိမိကိုယ်ကို ဆရာအား အပ်နှင်းမထားသော ယောဂီကား ဆရာက ဆုံးမပိုင်ခွင့်မရှိသူ ဖြစ်၏။ ဆရာ၏ ဆုံးမစကားကို မနာယူတတ်၍ ဆိုဆုံးမခက်သူလည်း ဖြစ်၏။ ဆရာကို မပန်ကြားဘဲ မိမိ သွားလိုရာရာအရပ်သို့ သွားတတ်သူလည်း ဖြစ်၏။ ထိုသို့သော ယောဂီကို ဆရာက သင်္ဂြိုဟ် စသော အာမိသဖြင့် ဖြစ်စေ၊ ဆုံးမဩဝါဒတည်းဟူသော ဓမ္မဖြင့်ဖြစ်စေ၊ မချီးမြှောက်၊ ခက်ခဲသော ကမ္မဋ္ဌာန်းဆိုင်ရာ စာပေကျမ်းဂန်ကိုလည်း သင်ကြားမပေးတော့ပါ။ ထိုယောဂီ သည် ဆရာ့ထံမှ အာမိသနှင့် ဓမ္မဟူသော ဤချီးမြှောက်ခြင်း

နှစ်မျိုးကို မရသည်ဖြစ်၍ သာသနာတော်၌ ထောက်တည်ရာမရပင် ဖြစ်တတ်ပါသည်။ မိမိကိုယ်ကို ဆရာအား အပ်နှင်းထားသော ယောဂီသည်ကား ဆရာ၏ ဆုံးမနိုင်ခွင့်ရှိသူလည်း ဖြစ်ပါသည်။ ဆရာကို မပန်ကြားဘဲ သွားလိုရာရာသို့လည်း မသွားတတ်ပါ။ ဆိုဆုံးမလွယ်သူဖြစ်၍ ဆရာ၏ ချီးမြှောက်ခြင်း နှစ်မျိုးကိုလည်း ရရှိနိုင်ပါသည်။

ဤ မိမိကိုယ်ကို အပ်နှင်းပုံအကြောင်းကို 'ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ပထမတွဲ၊ စာမျက်နှာ ၁၁၁-၁၁၂၊ ဝိသုဒ္ဓိမဂ် မြန်မာပြန် ပထမတွဲ၊ ကမ္မဋ္ဌာနဂ္ဂဟဏနိဒ္ဒေသ စာမျက်နှာ ၃၅၅-၃၅၆' တို့၌ ကြည့်ရှုနိုင်ပါသည်။



## အမှတ် (၁၁)
## မကောင်းမှု မှန်၊ ကံသုံးတန်၊ ဘယ်ကံ အပြစ်ကြီးဆုံးနည်း ?

မေး ။ ။ အရှင်ဘုရား. . .

*အကုသိုလ် ကာယကံ, ဝစီကံ, မနောကံ ဤသုံးပါးတို့တွင် အဘယ်ကံက အပြစ်ကြီးဆုံးကံ ဖြစ်ပါသလဲဘုရား။*

*Than Than Htay (San Francisco)*

ဖြေ ။ ။ ဤမေးခွန်းနှင့် ပတ်သက်၍ ရှေးဦးစွာ အကုသိုလ် ကာယကံ၊ ဝစီကံ၊ မနောကံ ဤသုံးပါးတို့၏ အနက်အဓိပ္ပာယ်နှင့် အရေအတွက်များကို သိဖို့လိုပါသည်။

အကုသိုလ် ကာယကံဆိုတာ 'ကိုယ်ဖြင့် ပြုလုပ်အပ်သော မကောင်းမှု' ဟု ဆိုလိုပါသည်။ အရေအတွက်မှာ-

၁။ သူ့အသက်ကို သတ်မှု (ပါဏာတိပါတ)

၂။ သူ့ဥစ္စာကို ခိုးမှု (အဒိန္နာဒါန)

၃။ ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်မှု၊ မိမိ၏ဇနီးမှ တစ်ပါးသောမိန်းမနှင့် ကာမဆက်ဆံမှု၊ မိမိ၏ခင်ပွန်းမှ တစ်ပါးသောယောကျ်ားနှင့် ဖောက်ပြားမှု (ကာမေသု မိစ္ဆာစာရ) ဟူ၍ သုံးပါးရှိပါသည်။

အကုသိုလ် ဝစီကံဆိုတာ 'နှုတ်ဖြင့် ပြောဆိုသော မကောင်းမှု' ဟု ဆိုလိုပါသည်။ အရေအတွက်မှာ-

၁။ မဟုတ်မမှန် လိမ်လည်ပြောဆိုမှု (မုသာဝါဒ)

၂။ သူနှစ်ယောက်တို့၏ ချစ်ခင်ခြင်းကို ပျက်ပြားအောင် ကုန်းတိုက်ပြောဆိုမှု (ပိသုဏဝါစာ)

၃။ ကြမ်းတမ်းသောစကားကို ပြောဆိုမှု (ဖရုသဝါစာ)

၄။ အကျိုးမရှိ သိမ်ဖျင်းသောစကားကို ပြောဆိုမှု (သမ္ဖပ္ပလာပ) ဟူ၍ လေးပါး ရှိသည်။

အကုသိုလ် မနောကံဆိုတာ 'စိတ်ဖြင့် တွေးခေါ်ကြံစည်ယူဆသော မကောင်းမှု'ဟု ဆိုလိုပါသည်။ အရေအတွက်မှာ-

၁။ သူတစ်ပါးပစ္စည်းကို ငါ့ပစ္စည်းဖြစ်ရင် ကောင်းလေစွ-ဟု သူ့ပစ္စည်းကို မတရားလိုချင်မှု (အဘိဇ္ဈာ)

၂။ ဒီကောင်မျိုးတော့ သေရင်ကောင်းမယ်၊ ဒုက္ခရောက်ရင် ကောင်းမယ်၊ ဘယ်တော့များမှ သေပါ့မလဲ၊ ဒုက္ခရောက်ပါ့မလဲ စသည်ဖြင့် သူတစ်ပါးကို သေစေလိုမှု၊ ဒုက္ခရောက်စေလိုမှု (ဗျာပါဒ)

၃။ ကံ၊ ကံ၏အကျိုးကို မယုံကြည်သည့် မှားသောအယူ (မိစ္ဆာဒိဋ္ဌိ) ဟူ၍ သုံးပါး ရှိသည်။

ဤအကုသိုလ်ကံ သုံးပါးစလုံးဟာ အပြစ်ကြီးတာချည်းပါပဲ။ တစ်ပါးပါး ကျူးလွန်မိလျှင် အပါယ်သို့ ကျရောက်စေတာပါပဲ။ အမှန်တော့ ကုသိုလ်ကံက အချို့အကုသိုလ်ကံ၏ အကျိုးပေးခွင့်ကို တားမြစ်နိုင်သော်လည်း တချို့ အကုသိုလ်ကံ၏ အကျိုးပေးခွင့်ကိုတော့ လုံးဝ မတားမြစ်နိုင်ပါ။

မည်သည့်ကုသိုလ်ကံကမျှ ထိုအကုသိုလ်တို့၏ အကျိုးပေးခွင့်ကို မတားမြစ်နိုင်သော အကုသိုလ်ကံကြီး ခြောက်ပါး ရှိပါသည်။ ယင်းတို့မှာ-

၁။ အမိသတ်မှု (မာတုဃာတက)

၂။ အဖသတ်မှု (ပိတုဃာတက)

၃။ ရဟန္တာသတ်မှု (အရဟန္တဃာတက)

၄။ ဘုရားရှင်ကို သွေးစိမ်းတည်အောင် ပြုမှု (လောဟိတုပ္ပါဒက)

၅။ သံဃာသင်းခွဲမှု (သံဃဘေဒက)

ဤပဉ္စာနန္တရိယကံ [၆] ငါးပါးနှင့်

၆။ ကံ၊ ကံ၏အကျိုးကို ပယ်သည့် မှားသောအယူ (နိယတမိစ္ဆာဒိဋ္ဌိ)

တို့ ဖြစ်ပါသည်။ ဤကံကြီးခြောက်ပါးတို့တွင် တစ်ပါးပါးကို ကျူးလွန်မိလျှင် သေသည့်နောက်၌ မလွဲမသွေ ငရဲကျရ၏။

အရှင်မဟာမောဂ္ဂလ္လာန်အလောင်းသည် မယားစကားကို ယုံ၍ မျက်မမြင် မိဘနှစ်ပါးကို ခိုးသူယောင်ဆောင်ကာ သတ်ခဲ့သောကြောင့် တစ်သိန်းမကသော နှစ်တို့ပတ်လုံး ငရဲ၌ ခံခဲ့ရပြီးလျှင် ကံ၏အကျိုးကြွင်းမျှဖြင့် ဘဝတစ်ရာတိုင်တိုင် နောက်ဆုံးဘဝ ရဟန္တာဖြစ်သည့်အထိ ခိုးသူတို့၏ ထောင်းထုရိုက်နှက် သတ်ဖြတ်ခြင်း ခံရလေသည်။[၇]

(မာတုဃာတကကံ၏ အကျိုး)

[၆] သေလွန်သည်နှင့် တစ်ပြိုင်နက် အခြားမဲ့ဘဝ၌ မလွဲမသွေ ငရဲသို့ ကျရောက်ကြောင်း ကံငါးပါး
[၇] ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယတွဲ၊ ၄၄

အဇာတသတ်မင်းသည် ဒေဝဒတ်၏ စကားကို လိုက်နာ၍ ခမည်းတော် ဗိမ္ဗိသာရမင်းကြီးကို သတ်သောကြောင့် (နောင်အခါ ပုထုဇဉ်လောကတွင် ဘုရားရှင်ကို အကြည်ညိုဆုံး ဒါယကာ ဖြစ်သော်လည်း) ကွယ်လွန်သည်မှ နောက်ဝယ် လောဟကုမ္ဘိငရဲ (သံပူရည်တွေ ပြည့်နေဟန်တူသည့် သံအတိုပြီးသော ငရဲ) သက် နှစ်ပေါင်း ခြောက်သောင်းတို့ပတ်လုံး ခံနေရရှာသည်။ လောဟကုမ္ဘိငရဲသည် အဝီစိငရဲ၏ အခြံအရံငရဲဖြစ်၍ အဝီစိငရဲ၌ ပါဝင်လေသည်။[၈]

(ပိတုဃာတကကံ၏ အကျိုး)

အရှင်မဟာမောဂ္ဂလာန်ကို သတ်သော ခိုးသားငါးရာနှင့် ခိုးသူတို့ကို စေခိုင်းသည့် အဝတ်မဝတ်သည့် တိတ္ထိ တက္ကတွန်း ငါးရာတို့ကို တွင်းတို့၌ မတ်တတ်ရပ် မြှုပ်နှံစေပြီးလျှင် ကောက်ရိုးတို့ဖြင့် ဖုံးလွှမ်းလျက် မီးတိုက်စေ၏။ ယင်းတိတ္ထိတို့နှင့် ခိုးသူတို့၏ မီးလောင်သော အဖြစ်ကို သိလျှင် သံထွန်ဖြင့်ထွန်စေ၍ အားလုံးတို့ကို အပိုင်းပိုင်းပြုစေ၏။ ထိုပုဂ္ဂိုလ်တို့သည် ရဟန္တာကိုသတ်သော မကောင်းမှုကြောင့် မျက်မှောက်ဘဝ၌ပင် သေခြင်းဆိုးဖြင့် သေကြရသည့်အပြင် တမလွန်ဘဝ၌လည်း ငရဲ၌ခံကြရလေသည်။ [၉]

(အရဟန္တဃာတကကံ၏ အကျိုး)

ဒေဝဒတ်သည် ဘုရားရှင်ကို သွေးစိမ်းတည်အောင် ပြုမှု (လောဟိတုပ္ပါဒကကံ) နှင့် သံဃာသင်းခွဲမှု (သံဃဘေဒကကံ) တို့ ပြုခဲ့လေသည်။ ထိုကံနှစ်ပါးတို့တွင် သံဃဘေဒကကံက ပို၍အပြစ်ကြီးသည်။ ဒေဝဒတ်သည် ယင်းသံဃဘေဒကကံကြောင့် မြေမျို၍ ကမ္ဘာပျက်သည့် အထိ အဝီစိငရဲ၌ ခံနေရရှာသည်။ [၁၀]

---

[၈] သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာ၊ သာမညဖလသုတ်အဖွင့် (ဒီ၊ ဋ၊ ၁၊ ၂၁၂)

[၉] ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယတွဲ၊ ၄၃-၄၅

[၁၀] ဓမ္မပဒအဋ္ဌကထာ၊ ပထမတွဲ၊ ဒေဝဒတ္တဝတ္ထု၊ ၈၆-၉၅

[ဒေဝဒတ်သည် ပို၍အပြစ်ကြီးသော သံဃဘေဒကကံ၏ အကျိုး ခံရပြီးသောအခါ လောဟိတုပ္ပါဒကကံ၏ အကျိုးအတွက် ငရဲ၌ ခံရဖွယ် မရှိတော့ပြီ။ [၁၁]]

ပဉ္စာနန္တရိယ ကံငါးပါးတို့တွင် အထက် ကံလေးပါးတို့သည် ကာယကံ (ပါဏာတိပါတကံ) ၌ ပါဝင်ကြ၍ သံဃဘေဒကကံသည် ဝစီကံ (ပိသုဏဝါစာ) ၌ ပါဝင်သည်။ [၁၂] လောဟိတုပ္ပါဒကကံသည် သေစေလိုသော စေတနာဖြင့် ပြုသောကြောင့် ပါဏာတိပါတကံ၌ သွင်းယူသည်။

ဓမ္မသင်္ဂဏီအနုဋီကာ [၁၃] အလိုကား **'လောဟိတုပ္ပါဒကကံ-သွေးစိမ်းတည်အောင် ပြုမူသည် သေစေလိုသော စေတနာဖြင့် ပြုသော ကြောင့် ပါဏာတိပါတကမ္မပထ မမြောက်သော်လည်း ဗျာပါဒကမ္မပထ မြောက်သည်'**ဟု ဆိုသင့်၏ဟု သဂြိုဟ်ဘာသာဋီကာ (၃၁၅) ၌ ပါရှိပါ သည်။

ပဉ္စာနန္တရိယကံတို့တွင် သံဃဘေဒကကံသည် အပြစ်အကြီးဆုံး ဖြစ်သည်။ ထိုကံကို အဝီစိငရဲ၌ ကမ္ဘာတည်နေသရွေ့ ခံရသောကြောင့် 'ကပ္ပဋ္ဌိတိယကံ'ဟု ခေါ် ဆိုရသည်။ ကြွင်းကံလေးပါးတို့ကား ကပ္ပဋ္ဌိတိ ယကံ (ကမ္ဘာတည်သရွေ့ ခံရသောကံ) များ မဟုတ်ကြပါ။[၁၄] ထို့ကြောင့် ခမည်းတော်ကို သတ်သော အဇာတသတ်မင်းသည် လောဟကုမ္ဘီငရဲ၌ အနှစ် ခြောက်သောင်းသာ ကျခံရသည်။

အကယ်၍ ပဉ္စာနန္တရိယကံအားလုံးကို လွန်ကျူးမိလျှင် အခြား ကံလေးပါးကို လွှမ်းမိုး၍ သံဃဘေဒကကံကသာလျှင် အဝီစိငရဲ၌

[၁၁]သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ ဉာဏဝိဘင်း၊ ဒသကနိဒ္ဒေသအဖွင့် (အဘိ၊ ဋ္ဌ၊ ၂၊ ၄၀၉)
[၁၂]သမ္မောဟဝိနောဒနီအဋ္ဌကထာ (အဘိ၊ ဋ္ဌ၊ ၂၊ ၄၀၉)
[၁၃]ဓမ္မသင်္ဂဏီအနုဋီကာ၊ အကုသလကမ္မပထကထာဝဏ္ဏနာ (၈၉)
[၁၄]သမ္မောဟဝိနောဒနီအဋ္ဌကထာ၊ ဉာဏဝိဘင်္ဂ၊ ဒသကနိဒ္ဒေသဝဏ္ဏနာ (အဘိ၊ ဋ္ဌ၊ ၂၊ ၄၀၉)

ပဋိသန္ဓေကျိုးကိုပေး၍ အခြားကံများက အဝိစိငရဲ၌ အကျိုးမပေးတော့ဘဲ နောက်နောင် အခွင့်သင့်ရာ ဘဝတို့၌ ပဝတ္တိအကျိုးကိုကား ပေးကြလိမ့်မည်။ ရှေ့ကံလေးပါးစလုံး လွန်ကျူးလျှင် လောဟိတုပ္ပါဒက ကံကသာ ပဋိသန္ဓေကျိုးပေး၏။ ရှေ့ကံ သုံးပါးလုံး လွန်ကျူးမိလျှင် အရဟန္တဃာတကကံကသာ ပဋိသန္ဓေကျိုးပေး၏။ ရှေ့ကံနှစ်ပါးစလုံး လွန်ကျူးမိလျှင် မိဘ နှစ်ဦးစလုံး သီလရှိခြင်း၊ မရှိခြင်းတူပါမူ အမိက ကျေးဇူး သာ၍ကြီးသောကြောင့် မာတုဃာတကကံက အကျိုးပေး၏။ အမိကသာ သီလရှိပါမူ ပြောဖွယ်ရာ မရှိတော့ပြီ။ အဖက အမိထက် သီလ သာလွန်နေပါမူ ပိတုဃာတကကံက အကျိုးပေး၏။

မိစ္ဆာဒိဋ္ဌိသည် ၆၂ ပါးရှိရာတွင် ပဉ္စာနန္တရိယကံတို့ထက်ပင် အပြစ်ကြီးလေးသော မိစ္ဆာဒိဋ္ဌိများမှာ-

၁။ ကောင်းမှု၊ မကောင်းမှုမည်သည် မရှိ၊ ပြုသော်လည်း ကောင်းမှု၊ မကောင်းမှု မဖြစ်။ ကောင်းကျိုး၊ ဆိုးကျိုးကို မပေးနိုင်-ဟု မြဲမြံစွာ ယူသော အကြောင်းကို ပယ်သည့် **'အကိရိယဒိဋ္ဌိ'**။

၂။ သတ္တဝါသည် သေလျှင်ပြတ်၏၊ ဘဝတစ်ပါး၌ မဖြစ်ပြီ၊ ကောင်းမှု၏ကောင်းကျိုး၊ မကောင်းမှု၏ မကောင်းကျိုး မည်သည် မရှိဟု မြဲမြံစွာ ယူသော အကျိုးကို ပယ်သည့် **'နတ္ထိကဒိဋ္ဌိ'**။

၃။ ကောင်းကျိုး၊ ဆိုးကျိုးဖြစ်ရန် ကောင်းမှု၊ မကောင်းမှုဟူသော ကံအကြောင်းမရှိ၊ အကြောင်းမရှိဘဲ အလိုလိုပင် ချမ်းသာကြသည်၊ အလိုလိုပင် ဆင်းရဲကြသည်ဟု မြဲမြံစွာ ယူသော အကြောင်းအကျိုး နှစ်မျိုးလုံးကို ပယ်သည့် **'အဟေတုကဒိဋ္ဌိ'**-

ဟူ၍ သုံးမျိုးရှိသည်။ အမှန်တော့ အကြောင်းကိုပယ်လျှင် အကျိုးကိုလည်း ပယ်ရာရောက်သည်။ အကျိုးကိုပယ်လျှင်လည်း အကြောင်းကိုလည်း ပယ်ရာရောက်သောကြောင့် ယင်းမိစ္ဆာဒိဋ္ဌိ သုံးမျိုးစလုံးပင် အကျဉ်းအားဖြင့် ကံ၊ ကံ၏အကျိုးကို ပယ်သောအယူဟု မှတ်ရမည်။

ဤဒိဋ္ဌိသုံးမျိုးကို မစွန့်လွှတ်နိုင်အောင် မြဲမြဲစွာ ယူသူသည် သေသည်၏ အခြားမဲ့၌ ငရဲသို့ ဧကန်ကျရမည် ဖြစ်သောကြောင့် **'နိယတမိစ္ဆာဒိဋ္ဌိ'** ဟု ခေါ်သည်။

နိယတမိစ္ဆာဒိဋ္ဌိသည် သံဃဘေဒကကံထက်ပင် အပြစ်ကြီးလေးသည်။ သံဃဘေဒကကံက ကမ္ဘာတည်သရွေ့သာ အဝီစိငရဲ၌ ခံရသည်။ ကမ္ဘာပျက်လျှင် ဆက်လက်မခံတော့သည့်အပြင် မဂ်ဖိုလ် ရပိုင်ခွင့် ရှိသည်။ ဒေဝဒတ်သည် နောက်ဆုံး သေခါနီးတွင် အမြင်မှန်ရသောကြောင့် သံဃဘေဒကကံကြောင့် အဝီစိငရဲ၌ ခံရစေကာမူ ထိုငရဲမှ လွတ်မြောက်၍ နောက်ဆုံးဘဝ၌ **'အဋ္ဌိဿရ'**မည်သော ပစ္စေကဗုဒ္ဓါ ဖြစ်လိမ့်မည်။

နိယတမိစ္ဆာဒိဋ္ဌိ၏ အပြစ်ကြီးလေးပုံကား အဝီစိငရဲ၌ ခံရမှုမှာ ကမ္ဘာပျက်သော်လည်း မပျက်သောကမ္ဘာသို့ ပြောင်း၍ ဆက်လက်ခံရမည်။ လွတ်မြောက်ရန် အပိုင်းအခြားမရှိချေ။ နတ်ရွာ၊ မဂ်ဖိုလ် နိဗ္ဗာန်သို့လည်း ရောက်ဖွယ်မရှိပြီ။ ပုရာဏကဿပမည်သော တိတ္ထိဆရာကြီးသည် **အကိရိယဒိဋ္ဌိ**အယူ ရှိသူဖြစ်ရကား အိုးကို မိမိ၏လည်ပင်း၌ဆွဲလျက် မြစ်တွင်း ရေနက်ရာသို့ ခုန်ချပြီးလျှင် သေ၍ အဝီစိငရဲ၌ ဖြစ်လေသည်။

နိယတမိစ္ဆာဒိဋ္ဌိသည် ကာယကံလည်း မဟုတ်၊ ဝစီကံလည်း မဟုတ် မနောကံသာ ဖြစ်သည်။ ထို့ကြောင့် **'မနောကံသည် အပြစ်အကြီးဆုံး'** ဖြစ်ပါသည်။

**မကောင်းမှုမှန်၊ မနောကံ၊ ပြစ်ဒဏ် အကြီးဆုံးတည်း။**

မင်းကွန်းအလယ်တောရ ဆရာတော်ဘုရားကြီးက မေး၍ မန်လည်ဆရာတော်ဘုရားကြီးက ဖြေဆိုအပ်သော ပဋ္ဌစတ္တာလီသပုဋ္ဌာ ဝိသဇ္ဇနာကျမ်း ၂၄ ၌လည်း ဖတ်ရှုနိုင်ကြသည်။

မေး။ ။ ဟိတ်သုံးထွေ အကြောင်းကြောင့်၊ မကောင်းမှု ဖြစ်လေဖွယ်။ ။
ကာယ ဝစီနှင့်၊ မသိ သညာပြု၊ သုံးခု ကံဝယ်။ ။
ဖြစ်ကြီးငယ် - ဘယ့်နှယ် ညှိနှိုင်း။ ။
ဘယ်ကံက ပိုမိုလို၊ အကျိုးကို ဖြစ်စေသင့်တယ်၊ ဟောဖွင့် မှန်တိုင်း။ ။

ဖြေ ။ ။ ဟိတ်သုံးထွေ အကြောင်းကြောင့်၊ မကောင်းမှု ဖြစ်လေဖွယ်။ ။
ကာယ ဝစီနှင့်၊ မနသီ သညာပြု၊ သုံးခုကံဝယ်။ ။
ဖြစ်ကြီးငယ် - သည့်နှယ် ညှိနှိုင်း။ ။
နိယတ်ကယ် မိစ္ဆာကြောင့်၊ မနောသာ ပိုမိုလို့၊ အကျိုးကို ဖြစ်စေသင့်တယ်၊ ကျမ်းဖွင့် မှန်တိုင်း။ ။



အမှတ် (၁၂)

(က) အိမ်ရှင်းသည့်တွက်၊ ယင် ပုရွက်၊ သေချက်ကံ မြောက်သလော ?

(ခ) သူကောင်းကျိုးတွက်၊ လိမ်လည်မြွက်၊ ပြစ်ချက် ရှိမည်လော ?

(ဂ) ဒိဋ္ဌိစွဲကပ်၊ မစွဲကပ် ချက်ကပ် (check up) မည်သို့လုပ်မည်နည်း ?

မေး ။ ။ အရှင်ဘုရား. . .

(က) တပည့်တော်သည် ကျောင်းအားရက်ဖြစ်၍ အိမ်ရှင်းရာ ပုရွက်ဆိတ်တွေ၊ ယင်ကောင်တွေ တွေ့ရသဖြင့် တံမြက်စည်းနှင့် လှည်းထုတ်ပစ်လိုက်ပါသည်ဘုရား။ တစ်ကောင်တလေမက သေသွားမည် ထင်ပါသည်ဘုရား။ သူတို့ကို တမင် သေစေလိုခြင်း မဟုတ်ဘဲ အိမ်ရှင်းလို၍ လုပ်လိုက်ရာ သူတို့ သေသွားခြင်းဖြင့် တပည့်တော် ဆောက်တည်ထားသော ငါးပါးသီလ ပျက်သွားပါသလား ဘုရား? ငရဲကော ကြီးပါသလား ဘုရား? ပါဏာတိပါတကံ ထမြောက်သွားပါသလား ဘုရား?

(ခ) သူတစ်ပါး ကောင်းကျိုးကို မျှော်လင့်၍ လိမ်လည်ပြောဆိုမှုပြုလျှင် မုသာဝါဒကံ ထမြောက်ပါသလားဘုရား?

(ဂ) မိမိ၏ စိတ်ခန္ဓာမှာ ဒိဋ္ဌိစွဲကပ်၊ မကပ် မည်သို့မည်ပုံ စစ်ဆေးရပါ့မလဲဘုရား?

*Elizabeth Lay Hwa Kaw (Pasadena)*

ဖြေ ။ ။ (က) နံပါတ်မေးခွန်း၌ သေစေလိုသောစိတ် (စေတနာ) မရှိဘဲ မိမိ တံမြက်စည်းလှည်းခြင်း လုံ့လပယောဂဖြင့် ပုရွက်ဆိတ်တွေ၊ ယင်ကောင်တွေ သေရာဝယ် သီလပျက် မပျက်၊ အပြစ်ရှိမရှိ ပါဏာတိ

ပါတကံမြောက် မမြောက် သိလိုရင်းဖြစ်ရာ ပါဏာတိပါတကံ အထမြောက်ရန်မှာ-

၁။ (အသတ်ခံရမည့်) သတ္တဝါ ထင်ရှားရှိခြင်း။

၂။ သတ္တဝါဟု အမှတ်ရှိခြင်း။

၃။ သတ်လိုသော စိတ်ရှိခြင်း။

၄။ (သတ်ရန်) လုံ့လပြုလုပ် အားထုတ်ခြင်း။

၅။ ယင်းလုံ့လပြုလုပ် အားထုတ်မှုကြောင့် သေခြင်း-ဟူ၍ အင်္ဂါငါးပါး [၁၅] ရှိသည်။

ဤအင်္ဂါငါးပါးနှင့် ပြည့်စုံလျှင် ပါဏာတိပါတကံ (သူ့အသက်သတ်မှု) အထမြောက်တော့သည်။ မေးခွန်းရှင်မှာ မိမိ၏ တံမြက်လှည်းခြင်း လုံ့လပယောဂကြောင့် ပုရွက်ဆိတ်များ၊ ယင်ကောင်များ သေကျေပျက်စီးစေကာမူ သတ်လိုသောစိတ်ဟူသော အင်္ဂါတစ်ပါး ချို့တဲ့နေသောကြောင့် ပါဏာတိပါတကံ အထမမြောက်၍ သီလလည်းမပျက်၊ အပြစ်လည်း မရှိပါ။

ဘုရားရှင် လက်ထက်တော်က စက္ခုပါလအမည်ရှိသော ရဟန္တာမထေရ်ကြီးတစ်ပါး ရှိခဲ့သည်။ ရဟန္တာဖြစ်သော်လည်း မျက်စိကွယ်နေရှာသည့်အတွက် နံနက် စင်္ကြံလျှောက်သည့်အခါ ပိုးမွှားတွေကို နင်းမိ၍ ပိုးမွှားတွေ သေခဲ့ကြသည်။ ပုထုဇဉ်ရဟန်းများက ဘုရားရှင်အား ယင်းကိစ္စနှင့်ပတ်သက်၍ အပြစ်တင်စကား လျှောက်ထားကြ၏။ ဘုရားရှင်က 'စက္ခုပါလရဟန်းမှာ သေစေလိုသော စိတ်စေတနာ မရှိသည့်အတွက် အပြစ်မရှိကြောင်း' မိန့်တော်မူခဲ့ပါသည်။ သတိပြုဖွယ်မှာ ပုရွက်ဆိတ်၊ ယင် စသည့် သတ္တဝါကောင်ငယ်လေးများ ရှိမှန်းသိပြီး၊

[၁၅] အဋ္ဌသာလိနီအဋ္ဌကထာ (အဘိ၊ ဋ္ဌ၊ ၁၊ ၁၄၀)

မိမိက တံမြက်လှည်းလျှင် သေနိုင်သည်ဟု ထင်ပါက ယင်းနေရာကို တံမြက်မလှည်းခြင်းဟာ အကောင်းဆုံးဖြစ်ပါသည်။

**အိမ်ရှင်းသည့်တွက်၊ ယင် ပုရွက်၊ သေချက် ကံမမြောက်ပါ။**

(ခ) သူတစ်ပါး ကောင်းကျိုးကို မျှော်လင့်၍ လိမ်လည်ပြောဆိုမှုပြုသည်ဟု ဆိုစေကာမူ လိမ်လည်မှုဟူသည် သူတစ်ပါး၏ အမှန်အကန်သိမှုကို မမှန်မကန်ဖြစ်အောင် ပြောင်းပြန်လှန်လိုက်ခြင်း ဖြစ်၍ ကောင်းသော နှုတ်အမူအရာ မဟုတ်ပါ။ မုသာဝါဒကံ အထမြောက်ရန်မှာ-

၁။ မိမိ ပြောဆိုပြုမူမည့် အကြောင်းအရာက မဟုတ်မမှန်ခြင်း။

၂။ မဟုတ်မမှန် ပြောဆိုပြုမူလိုသော စိတ်ရှိခြင်း။

၃။ ယင်းစိတ်ဖြင့် ပြောဆိုပြုမူခြင်း။

၄။ လိမ်လည်မှုကို ခံရသူက မိမိ၏ ပြောဆိုပြုမူမှုကို မှန်ကန်သည်ဟု ယုံကြည်ယူဆသွားခြင်း [၁၆]

ဟူ၍ အင်္ဂါလေးပါး ရှိပါသည်။ ဤအင်္ဂါလေးပါးနှင့် ပြည့်စုံလျှင် မုသာဝါဒကံ အထမြောက်ပါသည်။ သူတစ်ပါး ကောင်းကျိုးကို မျှော်လင့်၍ လိမ်လည်မှု ဖြစ်သော်လည်း မုသာဝါဒကံမှ လွတ်မြောက်ခွင့် မရှိပါ။ သို့သော် သူတစ်ပါး၏ အကျိုးကို ပျက်စီးစေလို၍ မဟုတ်သောကြောင့် အပြစ်မကြီးပါ။

**သူ့ကောင်းကျိုးတွက်၊ လိမ်လည်မြွက်၊ ပြစ်ချက် ရှိပါသည်။**

**အကျိုးမပျက်၊ လိမ်လည်မြွက်၊ ပြစ်ချက် နည်းပါသည်။**

**ကျိုးမပျက်ငြား၊ ထိုမုသား၊ ပြစ်ကား မကြီးပြီ။**

[၁၆] အဋ္ဌသာလိနီအဋ္ဌကထာ (အဘိ၊ ဋ္ဌ၊ ၁၊ ၁၄၂)

(ဂ) မိမိ၏ စိတ်ခန္ဓာ (ဝိညာဏက္ခန္ဓာ) မှာ ဒိဋ္ဌိစွဲကပ်၊ မကပ် စစ်ဆေးပုံက ရှေးဦးစွာ ဒိဋ္ဌိ၏သဘောကို သိဖို့ လိုသည်။ ဒိဋ္ဌိဟူသည် မှားမှားယွင်းယွင်း သိမြင်ခြင်းပင် ဖြစ်၏။ စိတ်ခေါ် သည့် ဝိညာဏက္ခန္ဓာ မှာ မြင်သိစိတ်၊ ကြားသိစိတ်၊ နံသိစိတ်၊ စားသိစိတ် (လျှက်သိစိတ်)၊ တွေ့သိစိတ်၊ တွေးသိစိတ် စသည်ဖြင့် စိတ်မျိုးပေါင်းစုံလှသည်။ ဒွါရ နှင့် အာရုံ [၇၇] တိုက်ဆိုင်မှုအပေါ် မူတည်၍ ဖြစ်ပေါ်လာကြသည်။ စိတ် အစဉ်တွေဟာ လွန်ခဲ့သည့် အခါများမှာလည်း ဖြစ်ပျက်ခဲ့ကြသည်။ ယခုအခါမှာလည်း ဖြစ်ပျက်နေကြဆဲ၊ နောက်အခါများမှာလည်း ဖြစ် ပျက်နေကြဦးမည်သာ ဖြစ်သည်။ ယင်းစိတ်၏ ဖြစ်ပျက်နေသောသဘော ကို မရှုမှတ်နိုင်ကြ၍ စိတ်ဝိညာဉ်ကို အတ္တကောင်၊ ငါကောင်၊ ဝိညာဉ် ကောင်၊ လိပ်ပြာကောင်ဟု ထင်မှတ်စွဲလမ်းနေကြသည်။ ရှေးဘဝက စိတ်ဝိညာဉ်ဟာ ရုပ်(ကိုယ်)ခန္ဓာ ပျက်စီးသွားသော်လည်း အဲဒီရုပ် ဟောင်းထဲမှထွက်၍ ဘဝသစ်၊ ရုပ်ခန္ဓာသစ်ထဲ၌ ဝင်နေပြီး တစ်ဖန် သေ၍ ဘဝပြောင်းသည့်အခါ၌လည်း နောင်ဘဝသစ် ရုပ်ခန္ဓာထဲမှာ ပြောင်းရွှေ့၍ တည်နေလိမ့်မည်ဟု ထင်မှတ်နေကြသည်။ ထိုစိတ်ဝိညာဉ် ကို ငါပဲ၊ ငါ့အတ္တပဲဟု ယူဆနေမှုဟာ မိမိ၏ စိတ်ခန္ဓာမှာ ဒိဋ္ဌိစွဲကပ်နေ ခြင်းပင် ဖြစ်သည်။

ဒိဋ္ဌိမစွဲကပ်ရအောင်ကတော့ စိတ်ဆိုတာ အာရုံကို သိမှုသဘော ပဲ။ မြင်တဲ့အခါ မြင်သိစိတ်၊ ကြားတဲ့အခါ ကြားသိစိတ်၊ နံတဲ့အခါ နံ သိစိတ် စသည်ဖြင့် ပေါ်ရာပေါ်ရာ အာရုံအားလျော်စွာ မြင်တယ်၊ ကြားတယ်၊ နံတယ် စသည်ဖြင့် ရှုမှတ်နိုင်လျှင် စိတ်ဆိုတာ အာရုံကို သိတတ်တဲ့ သဘောမျှပါလား၊ ပေါ်လာပြီး (ဖြစ်လာ၍) ပျောက်သွား

[၇၇] မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ်ဟူသော ဒွါရ၊ အဆင်း အသံ အနံ့ အရသာ အတွေ့ အတွေးဟူသော အာရုံ

(ပျက်သွား) တတ်တဲ့ သဘောတရားပါလား၊ မမြဲတဲ့သဘောပါလား၊ ဖြစ်ခြင်းပျက်ခြင်းဖြင့် နှိပ်စက်ခံနေရတဲ့ သဘောပါလား၊ မိမိဖြစ်ချင်သလို မဟုတ်ဘဲ သူဖြစ်ချင်သလို ဖြစ်နေတဲ့ အလိုမလိုက်၊ အစိုးမရ၊ အနှစ်သာရမရှိတဲ့ သဘောတရားပါလား?ဟု ဉာဏ်၌ ထင်လာတော့သည်။ စိတ်ဆိုတာ ငါ မဟုတ်၊ အတ္တကောင် မဟုတ်၊ ဝိညာဉ်ကောင် မဟုတ်၊ လိပ်ပြာကောင် မဟုတ်ဘဲ အာရုံသို့ ညွှတ်တတ်သော ဖြစ်ပျက်နေသည့် နာမ်သဘောမျှသာ ဖြစ်သည်ဟု သိလာသောအခါ စိတ်ခန္ဓာနှင့်ပတ်သက်၍ ဒိဋ္ဌိစွဲကပ်မှု ကင်းတော့သည်။

ဝိညာဉ် ခြောက်မည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊
မတည်ထဘဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊
နှိပ်စက်ဒဏ်ဖြင့်၊ တစ်ရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊
နှစ်မပါဘူး၊ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊
အနိစ္စနှင့်၊ ဒုက္ခ အနတ္တာ၊ မုန်လုစွာ၏။ ငါ ငါ့ဥစ္စာ၊
ငါ့လိပ်ပြာတို့၊ ဘာတစ်ခုမျှ၊ မဟုတ်ကြသည်၊
ဓမ္မသက်သက်ပါတကား။
(မင်းကွန်း တိပိဋကရဓမ္မဘဏ္ဍာဂါရိက
ဆရာတော်ဘုရားကြီး၏ ဓမ္မလက်ဆောင်များ)
ဒိဋ္ဌိစွဲကပ်၊ မစွဲကပ် ချက်ကပ်လုပ်ကြည့်ပါ။



## အမှတ် (၁၃)

### စားသောက်ချက်ရာ၊ သွားတိုက်ရာ၊ သေရှာ ပိုးမွှားများ ပါဏာတိပါတံ၊ သက်သတ်ကံ၊ ထိုက်တန်ပါသလား ?

မေး ။ ။ အရှင်ဘုရား . .

အစားအသောက် ချက်ပြုတ်ရာ၌ ဖြစ်စေ၊ မိမိတို့ နေ့စဉ် သွားတိုက်ရာ၌ဖြစ်စေ ပိုးမွှားလေးများ သေဆုံးကြသည်ဟု နားလည်ထားပါသည်။ ယင်းတို့ကိုသိလျက် နေ့စဉ် လုပ်နေခြင်းသည် ပါဏာတိပါတကံ (သူ့အသက်ကို သတ်မှု) ထိုက်ပါသလား ဘုရား ?

*Ronnie (Daly City)*

ဖြေ ။ ။ ပါဏာတိပါတကံ ထိုက်ဖို့ဆိုတာ အင်္ဂါငါးချက်နှင့် ပြည့်စုံဖို့ လိုပါသည်။ [၁၈]

၁။ (အသတ်ခံရမည့်) သတ္တဝါ ထင်ရှားရှိခြင်း။

၂။ သတ္တဝါဟု အမှတ်ရှိခြင်း။

၃။ သတ်လိုသော စိတ်ရှိခြင်း။

၄။ သေအောင် ကြိုးစားအားထုတ်ခြင်း။

၅။ သေလည်း သေခြင်း။

'ချက်ပြုတ်ဖွယ်ရာ ပစ္စည်းများ၌ လည်းကောင်း၊ မိမိတို့၏ သွားကြိုသွားကြား၌လည်းကောင်း ပိုးမွှားလေးများ ရှိကြသည်'ဟု သိပ္ပံပညာရှင်များ၊ ဆရာဝန်များ၏ ပြောစကားအရ ကြားဖူးနားဝရှိကြသော်လည်း မိမိတို့၏ မျက်စိဖြင့် မသိမမြင်နိုင်ကြပါ။ ထို့ကြောင့် အထက်ပါ အင်္ဂါ

[၁၈] အဋ္ဌသာလိနီအဋ္ဌကထာ (အဘိ၊ ဋ္ဌ၊ ၁၊ ၀၀)

ငါးချက်အနက် အမှတ် ၁၊ ၂ တို့အရ သံသယမရှိထိုက်ပါ။ အကယ်၍ သံသယဝင်စေဦးတော့ အမှတ် ၃ အရ အစားအသောက် ချက်ပြုတ်ရာပါ ပိုးမွှားများ၊ သွားကြိုသွားကြားရှိ ပိုးမွှားလေးများ သေကြပါစေဟူသော စိတ်စေတနာမျိုးကား လုံးဝရှိမည်မဟုတ်ပါ။ သို့ပါ၍ အထက်ပါ ကိစ္စတို့၌ **ပါဏာတိပါတကံ မထိုက်ကြောင်း** သံသယကင်းရှင်းစွာ မှတ်ယူသင့်ပါသည်။

**စားသောက်ချက်ရာ၊ သွားတိုက်ရာ၊ သေရာပိုးမွှားများ။**
**ပါဏာတိပါတံ၊ သက်သတ်ကံ၊ ထိုက်တန် ကျမ်းမသား။**



အမှတ် (၁၄)

ဘဝကူးကောင်းရန်၊ အကြောင်းကံ၊ ဘယ်ဟန် ဖန်သင့်သနည်း ?

မေး ။ ။ အရှင်ဘုရား. . .

ဆရာဝန်များ လက်လျှော့လိုက်သော မိဘ ဘိုးဘွားများ ဘဝကူးကောင်းကြစေရန် နောက်ဆုံးအချိန်၌ မည်သို့ပြုလုပ်ဆောင်ရွက်ပေးရမည်ကို သိနားလည်ခွင့်ပေးသနားတော်မူပါဘုရား။

*Tony (Daly City)*

ဖြေ ။ ။ လူ စသော သတ္တဝါတွေမှာ ဘဝတစ်ခု၏ နောက်ဆုံး စုတိစိတ် (သေရမည့်စိတ်) မကျမီ အချိန်လေးအတွင်းဝယ်-

၁။ မိမိတို့ ရှေးက ပြုလုပ်ခဲ့ဖူးသော ကောင်းမှု၊ မကောင်းမှုကံ တစ်မျိုးမျိုး ထင်လာတတ်သည်။

၂။ ရှေးက ကျောင်းဆောက်လုပ်လှူဒါန်းခဲ့ဖူးလျှင်၊ ကျောင်းကြီး၊ ဆွမ်း သင်္ကန်း လှူဒါန်းခဲ့ဖူးလျှင် ဆွမ်း သင်္ကန်း စသည့်ကောင်းသော ကမ္မနိမိတ်များ၊ ကြက် ဝက် သတ်ဖြတ်ဖူးလျှင် ကြက် ဝက် စသည့် မကောင်းသော ကမ္မနိမိတ်များ ထင်လာတတ်သည်၊ သို့မဟုတ်

၃။ ငရဲ သွားရမည့်သူ ဖြစ်လျှင် ငရဲဘုံ၊ ငရဲမီး၊ ငရဲထိန်း၊ လင်းတ၊ ခွေးနက်ကြီးများ၊ ပြိတ္တာဘုံ သွားရမည့်သူဖြစ်လျှင် တော တောင် မြစ်ကမ်း စသည့် မကောင်းသော ဂတိနိမိတ်များ၊ လူပြန်ဖြစ်ရမည့်သူ ဖြစ်လျှင် ကမ္ဗလာနီအဆင်းရှိသော အမိဝမ်းရည်၊ နတ်ပြည် သွားရမည့်သူ ဖြစ်လျှင် နတ်ဘုံဗိမာန်၊ နတ်သမီး၊ နတ်သား၊ ဥယျာဉ်ပဒေသာပင် စသည့် ကောင်းသော ဂတိနိမိတ်များ ထင်လာတတ်သည်။

သောဏမထေရ်၏ ဖခင်ရဟန်းကြီး ပျံလွန်ခါနီးမှာ "ငါ့ကို ခွေးနက်ကြီးတွေ လာဆွဲနေပြီ"ဟု ယောင်ယမ်းအော်သောအခါ မထေရ်က "ငါ့ဖခင်တော့ ဒီအတိုင်းသာ ပျံလွန်လျှင် ငရဲကျတော့မှာပဲ" ဆင်ခြင်၍ သာမဏေ (ကိုရင်)တစ်ပါးကို ဘုရားပန်းကပ်ခိုင်းပြီး "ဒီပန်းတွေကို ဘုရားအား လှူဒါန်းပါတယ်။ ပူဇော်ပါတယ်။ အာရုံပြုပါ"ဟု ဖခင်ရဟန်းကြီးအား အသိပေးပါသည်။ ဘုရားပန်း လှူရသည့်ကောင်းမှုကို အာရုံပြုတာနှင့် တစ်ပြိုင်နက် ဖခင်ရဟန်းကြီးမှာ နတ်သမီးနိမိတ်တွေ ထင်လာပြီး ပျံလွန်တော်မူကာ နတ်ပြည်သို့ ရောက်သွားခဲ့ပါသည်။[၃၉]

မဟာဓမ္မိက ဥပါသကာ ကွယ်လွန်ခါနီး၌ နတ်ပြည်ခြောက်ထပ်မှ နတ်ရထားခြောက်စင်း ဆိုက်ရောက်လာပြီး 'သူ့ရထား တင်ဆောင်

[၃၉] အင်္ဂုတ္တရနိကာယ် ဧကကနိပါတဋ္ဌကထာ (အံ၊ ဋ္ဌ၊ ၁၊ ၃၆၄-၃၆၅)၊ ဥပရိပဏ္ဏာသဋ္ဌကထာ (မ၊ ဋ္ဌ၊ ၄၊ ၈၇-၈၈), သမ္မောဟဝိနောဒနီဋ္ဌကထာ (အဘိ၊ ဋ္ဌ၊ ၂၊ ၄၂၀-၄၂၁)

မည်, ငါ့ရထား တင်ဆောင်မည်’ စသည်ဖြင့် လုကာပြောဆိုကြ၏။ ထိုနတ်တို့၏အသံများကို ဉပါသကာသာ ကြားရ၏။ နောက်ဆုံး တုသိတာနတ်ရထားကိုရည်၍ ပန်းကုံး ပစ်တင်စေပြီး ကွယ်လွန်သောအခါ တုသိတာနတ်ရထားမှာ ပါသွားလေသည်။ [၂၀]

ထို့ကြောင့် ဆရာဝန်များ လက်လျှော့လိုက်သော မိဘ ဘိုးဘွားတို့မှာ နောက်ဆုံးအချိန်၌ ဘယ်ကံ၊ ဘယ်ကမ္မနိမိတ်၊ ဘယ်ဂတိနိမိတ်တို့ ထင်လာမည်ကို မသိကြသော်လည်း သူတို့ ဘဝကူးကောင်းစေရန် “ဟောဒီပန်းတွေကို ဘုရားအား ပူဇော်ပါ။ ဒီပရိတ် ဒီတရားတော်ကို နာယူပါ” စသည်ဖြင့် အကြိမ်ကြိမ် ပြောပေးပါ။ လူမမာ မိဘ ဘိုးဘွားတွေဟာ ဘုရားကိုမှန်း ပန်းပူဇော်ခြင်း၊ ပရိတ်တရား နာယူရခြင်း စသောကုသိုလ်တွေရ၍ ကွယ်လွန်ကြရလျှင် မလွဲမသွေ ကောင်းရာဘဝသို့ ရောက်ကြရပါလိမ့်မည်။

**ဘဝကူးကောင်းရန်၊ ကောင်းမှုကံ၊ အာသန် [၂၁] ဖန်သင့်သည်။**



## အမှတ် (၁၅)

## ဥပစ္ဆေဒက၊ သေဆုံးကြ၊ လားရ ဘယ်ဂတိနည်း ?

*မေး ॥ ॥ အရှင်ဘုရား. . .*

*ရုတ်တရက် သေဆုံးခြင်း၏ ဘဝကူးပြောင်းခြင်းနှင့်ပတ်သက်သော အစိမ်းသေ သေခြင်း၊ ပမာအားဖြင့် ရေနစ်သေခြင်း၊ ကားတိုက်သေခြင်း၊ မိမိကိုယ်ကို သတ်သေခြင်း၊ လုပ်ကြံခံ*

[၂၀] ဓမ္မပဒဋ္ဌကထာ၊ ပထမတွဲ၊ ဓမ္မိကဥပါသကဝတ္ထု၊ (ဓမ္မပဒ၊ ဋ္ဌ၊ ၁၊ ၈၃-၈၅)

[၂၁] အာသန် = အာသန္န = အာသန္နကံ - သေခါနီးကာလ၌ ပြုလုပ်သောကံ

ရခြင်း၊ ထိုသူတို့၏ ဘဝကူးပြောင်းခြင်းက ဘဝကူးကောင်းပါမည်လား ? ကောင်းရာသုဂတိသို့ လားနိုင်ပါမည်လားဘုရား ?

ဒီဇင်ဘာထွေးထွေး (ဒီဇင်ဘာမြေ)

ဖြေ။ ။ ရေနစ်သေခြင်း၊ ကားတိုက်သေခြင်း စသော မမျှော်လင့်သော ဖြစ်ရပ်တို့ကြောင့် ကွယ်လွန်ရသူတို့အတွက် သာမန်အားဖြင့်ကြည့်လျှင် ဘဝကူးလှဖို့၊ ကောင်းရာသုဂတိ လားရောက်ဖို့ဆိုတာ မလွယ်ကူလှဟု ထင်ရသော်လည်း ယင်းမမျှော်လင့်သောဖြစ်ရပ် အခိုက်အတန့်တို့၌ သူတို့၏ စိတ်နေစိတ်ထားကို လေ့လာဖို့ လိုပါသည်။ မိမိပြုခဲ့ဖူးသော ကုသိုလ်ကောင်းမှု၊ ဆောက်တည်ထားသော သရဏဂုံ သီလတို့ကို ပြန်လည်အာရုံပြုနေခိုက်ဖြစ်စေ၊ ပုတီးစိပ်၊ တရားရှုမှတ်နေခိုက်ဖြစ်စေ မမျှော်လင့်သော အန္တရာယ်တစ်ခုခုကြောင့် ကွယ်လွန်ရသော် ကောင်းရာသုဂတိရောက်ဖို့ သေချာပါသည်။ သေရမည့် အန္တရာယ်ရင်ဆိုင်တွေ့ရစေကာမူ မိမိပြုခဲ့သော ဒါနကုသိုလ်၊ ခံယူဆောက်တည်ထားသော သရဏဂုံ သီလကုသိုလ်များကို ဆင်ခြင်လျက် ကွယ်လွန်ရလျှင်လည်း ဘဝကူးလှဖို့ကား လွဲမှားဖွယ်မရှိပါ။

ဘုရားရှင် လက်ထက်တော်ဝယ် ကုန်သည် ခုနစ်ရာတို့သည် သင်္ဘောဖြင့် ကုန်ရောင်းထွက်ခဲ့ကြရာ သမုဒ္ဒရာအလယ်၌ လေမုန်တိုင်းတိုက်ခတ်၍ သင်္ဘောကွဲပျက်လျက် နစ်မြုပ်ကာ သေဆုံးကြရမည့် အခြေအနေတွင် တစ်ယောက်သော ကုန်သည်သည် မိမိ၏အားကိုးရာကို ဆင်ခြင်လတ်သော် သင်္ဘောထွက်မည့်နေ့၌ သံဃာတော်များအား ဆွမ်းဆက်ကပ်လှူဒါန်း၍ ခံယူခဲ့သော သရဏဂုံနှင့် ငါးပါးသီလတို့ကို အာရုံပြုပြီး အခြားသင်္ဘောသားများကိုလည်း သရဏဂုံ ငါးပါးသီလ

တို့ကို ခံယူဆောက်တည်စေ၏။ "သင်တို့မှာ အခြားတစ်ပါးသော ကိုးကွယ်အားထားရာ မရှိပြီ။ သင်တို့ ယခု ခံယူဆောက်တည်ထားသော သရဏဂုံ သီလကိုသာ ဆင်ခြင်နှလုံး သွင်းကြလော့" ဟု အားပေး တိုက်တွန်းရင်းပင် သဘော်ကြီး နစ်မြုပ်၍ ကုန်သည် ခုနစ်ရာတို့လည်း ရေနစ်သေဆုံးကြရလေသည်။ ထိုကုန်သည်တို့သည် ကွယ်လွန်ခါနီးတွင် အကြောက်တရား မရှိကြဘဲ ခံယူဆောက် တည်ထားသော သရဏဂုံ သီလကုသိုလ်ကို ဆင်ခြင်နှလုံးသွင်းနိုင်ကြ၍ ကွယ်လွန်ကြရသော ကြောင့် တစ်ပေါင်းတစ်စုတည်း တာဝတိံသာနတ်ပြည်သို့ လားရောက် ကြရလေသည်။

ငါတို့ ဘုရားရှင်လက်ထက်တော်ကပင် တမ္ဗဒါဌိကမည်သော ဒါယကာတစ်ယောက်သည် အရှင်သာရိပုတ္တရာမထေရ်အား ဆွမ်း ဆက်ကပ်လှူဒါန်း၍ တရားနာယူပြီးနောက် မထေရ်မြတ်ကို လိုက်ပို့ ရာမှ အပြန်တွင် နွားမ ဝှေ့သတ်၍ သေဆုံးခဲ့လေရာ သေခါနီး ပြုလုပ်ခဲ့ သော ကောင်းမှုများကြောင့် တုသိတာနတ်ပြည်၌ ဖြစ်ရလေသည်။[၂၂]

ဘုရားရှင်လက်ထက်တော်ဝယ် သေတဗျရွာမှ ဆတ္တအမည်ရှိ သော လူငယ်တစ်ဦးသည် ဥက္ကဋ္ဌမြို့နေ ဆရာအား ပူဇော်ရန်အသွား လမ်းခရီးအကြား၌ ဘုရားရှင်ထံတော်မှ သရဏဂုံ သုံးပါးနှင့်တကွ ငါးပါးသီလကို ခံယူ၍ ခရီးဆက်လေရာ တောအုပ်ချုံကြား၌ ပုန်းကွယ် နေသော ခိုးသူတစ်ယောက်၏ ပစ်ခတ်သော အဆိပ်လူးမြားချက်ဖြင့် ကွယ်လွန်ရစေကာမူ သရဏဂုံသီလကို ဆင်ခြင်လျက် ရတနာသုံးပါး တို့၏ ဂုဏ်ကျေးဇူးတို့ကို အောက်မေ့သောစိတ်ကြောင့် တာဝတိံသာ နတ်ပြည်၌ နတ်သားဖြစ်ရကြောင်း ဝိမာနဝတ္ထုအဋ္ဌကထာ[၂၃] ၌ လာရှိ ပါသည်။

[၂၂]ဓမ္မပဒအဋ္ဌကထာ၊ ပထမတွဲ (ဓမ္မပဒ၊ ဋ္ဌ၊ ၁၊ ၄၀၆-၄၀၇)
[၂၃]ဝိမာနဝတ္ထုအဋ္ဌကထာ၊ ဆတ္တမာဏဝကဝိမာနဝဏ္ဏနာ (၂၀၂-၂၀၆)

ထို့ပြင် ဘုရားရှင်က စမ္ပာမြို့တော် ဂဂ္ဂရမည်သော ရေကန်အနီးဝယ် တရားဟောတော်မူစဉ် ဖားငယ်တစ်ကောင်သည် တရားတော်၏ အနက်အဓိပ္ပာယ်ကို မသိသော်လည်း ကြည်ညိုစိတ်ဖြင့် တရားသံကို နာယူခိုက်တွင် ယင်းဖားငယ်၏ ဦးခေါင်းပေါ်၌ နွားကျောင်းသားတစ်ယောက်၏ တုတ်ဖြင့် ထောက်ဖိမိသောကြောင့် သေဆုံးလေရာ တာဝတိံသာနတ်ပြည်မှာ နတ်သား ဖြစ်ရလေသည်။ [၂၄]

ထိုကဲ့သို့ ကောင်းမှုကုသိုလ်ကို ဆင်ခြင်နှလုံးသွင်းမှု မရှိကြဘဲ ကြောက်လန့်အားကြီးစိတ်၊ စိုးရိမ်စိတ်၊ မိဘ သားသမီး စသော တစ်စုံတစ်ယောက်ကို ဖြစ်စေ၊ ရွှေ ငွေ စသော ပစ္စည်းဉစ္စာ တစ်စုံတစ်ခုကို ဖြစ်စေ၊ စွဲလမ်းစိတ်တို့ဖြင့် ရေနစ်သေရ၊ ကားတိုက်သေရ၊ လုပ်ကြံခံသေရသူတို့ကား ဘဝကူးလှကြမည် မဟုတ်၊ ကောင်းရာသုဂတိသို့လည်း ရောက်နိုင်ကြမည် မဟုတ်ပါ။

**ကံကို မှီဆ၊ သေဆုံးကြ၊ လားရ ဂတိတည်း။**
**ကောင်းဆိုးနှစ်တန်၊ တစ်ခုဖန်၊ ဖြစ်ပြန်ရမည်တည်း။**
**စွဲလမ်းသေက၊ ပါယ်ဘဝ၊ ရောက်ရကေန်တည်း။**



အမှတ် (၁၆)

သရဏဂုံဟာ၊ ဘယ်သောအခါ၊ ပျက်ရှာတတ်သနည်း ?

မေး ။ ။ အရှင်ဘုရား. . . ဆောက်တည်ထားသော သရဏဂုံသည် မည်သို့သောအခါ ပျက်တတ်ပါသလဲဘုရား။

လှဲ့လှဲ့ *(Daly City)*

[၂၄] ဝိမာနဝတ္ထုအဋ္ဌကထာ၊ မဏ္ဍူကဒေဝပုတ္တဝိမာနဝတ္ထုနာ (၂၀၁-၂၀၃)

ဖြေ။ ။သရဏဂုံသည် လောကုတ္တရ သရဏဂုံနှင့် လောကိယ (လောကီ) သရဏဂုံဟူ၍ နှစ်မျိုး ရှိပါသည်။ လောကုတ္တရ သရဏဂုံသည် အရိယပုဂ္ဂိုလ်တို့၏ သရဏဂုံဖြစ်၍ မည်သည့်အခါမျှ မပျက်စီးသော်လည်း လောကိယသရဏဂုံသည်ကား ပုထုဇဉ်ပုဂ္ဂိုလ်တို့၏ သရဏဂုံဖြစ်၍ (၁) ဘာသာတစ်ပါးကို ပြောင်းယူသော်လည်းကောင်း၊ (၂) သေသော်လည်းကောင်း ပျက်တတ်ပါသည်။ [၂၅]

**လောကုတ်လောကီ၊ ဤနှစ်လီ၊ ကျမ်းညီ သရဏဂုံ။**
**လောကုတ္တရာ၊ မဂ်နိုက်မှာ၊ ဖြစ်လာ သရဏဂုံ။**
**ဘယ်ခါမပျက်၊ ဘဝဆက်၊ ပါလျက် သရဏဂုံ။**
**လောကီမှာကား၊ ယူပြောင်းသွား၊ သေငြား ပျက်သရဏဂုံ။**



အမှတ် (၁၇)

ပရိတ်တော်ကို၊ ရွတ်မဆို၊ စိတ်သို့ထားရုံသာ၊
မိမိ တောင့်တ၊ ကျိုးပြည့်ဝ၊ ရကြပါမည်လား ?

မေး။ ။အရှင်ဘုရား . . ပရိတ်တော်များကို နှုတ်ဖြင့် မရွတ်ဆိုဘဲ စိတ်ထဲမှာပင် နှလုံးသွင်းရုံနဲ့ လိုအပ်တဲ့အကျိုးကို ရနိုင်ပါသလားဘုရား ?

*ဒေါ်ခင်ခင် (San Jose)*

ပရိတ်ကိုဗျ၊ ရွတ်ဆိုကြ၊ တံ ဘဏာမ ဟော။

[၂၅] သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာ သာမညဖလသုတ်အဖွင့် သရဏဂမနကထာ (ဒီ၊ ဋ္ဌ၊ ၁၊ ၂၀၉)

ဖြေ ။ ။ ပရိတ်တော်များ၏ လိုအပ်သောအကျိုးကို ရနိုင်ဖို့ဆိုတာ-

၁။ ပရိတ်ပါဠိတော်များ၏ ပုဒ်ပါဌ်အက္ခရာတို့ကို ကျနမှန်ကန်စွာ ရွတ်ဆိုနိုင်ခြင်း။

၂။ ပရိတ်ပါဠိတော်များ၏ အနက်အဓိပ္ပာယ်ကို တိကျမှန်ကန်စွာ သိခြင်း။

၃။ လာဘ်ပူဇော်သက္ကာရကို မမျှော်မှန်းခြင်း။

၄။ မေတ္တာ ကရုဏာတရားကို ရှေ့သွားပြု၍ စင်ကြယ်သောစိတ်ထားဖြင့် ရွတ်ဆိုခြင်း။

ဤအင်္ဂါလေးချက်နှင့် ပြည့်စုံမှ လိုအပ်သော အကျိုးကို ရနိုင်သည်ဟု ပါထိကဝဂ္ဂအဋ္ဌကထာ (၁၄၉-၁၅၀) + ဋီကာ အာဋာနာဋိယသုတ်အဖွင့် (၁၅၉-၁၆၀) တို့၌ လာရှိသောကြောင့် ပရိတ်တော်များကို နှုတ်ဖြင့်မရွတ်ဆိုဘဲ စိတ်ထဲမှာ နှလုံးသွင်းရုံမျှနဲ့ လိုအပ်သော အကျိုးကို ပြည့်စုံစွာမရနိုင်ပါ။ နှုတ်ဖြင့် ရွတ်ကိုရွတ်ရပါမည်။

**ပရိတ်တော်များ၊ စိတ်တွင်ထား၊ ရွတ်ကားမရွတ်လျှင်၊**
**လိုအပ်အကျိုး၊ မဖွံ့ဖြိုး၊ တန်ခိုးစွမ်းမထင်။**



အမှတ် (၁၈)

(က) စိတ်ကို ထိန်းနည်း၊ နိဿယည်း (ရည်း)၊ သိမ်းဆည်းပေးပါဘုရား။

(ခ) ကွာရှင်းပြီးသူ၊ ဆက်ဆံမှု၊ ကျင့်ယူ သီလပေးပါဘုရား။

မေး ။ ။ အရှင်ဘုရား . .

ဗုဒ္ဓဘာသာဝင်တစ်ယောက်အနေနှင့် လင်မယား ကွာရှင်းပြတ်စဲနေချိန်အတွင်း မသိမရှင်း၊ နားမလည်သော သံယောဇဉ်

(emotion) *မကြာခဏဆိုသလို မတောင်းခံဘဲ စိတ်အတွေးထဲ ဝင်ရောက်လာသောအခါ တွေတွေဝေဝေဖြစ်သွားတတ်ပါသည်။*

*(က) မတွေမဝေရအောင် ဗုဒ္ဓဘုရား၏ မည်သည့်ဂါထာတော်၊ တရားတော်များ ရွတ်ဖတ်သင့်၊ နှလုံးသွင်းသင့်ပါသလဲဘုရား ?*

*(ခ) တပည့်တော်နှင့် ကွာရှင်းပြတ်စဲပြီးသူများအတွက် ကျင့်သုံးလိုက်နာရမည့် သီလဝေလေ့ထုံးစံများကိုလည်း ပေးသနားတော်မူပါဘုရား။*

*အောင်တိုး (Auburn)*

ဖြေ ။ ။ စိတ်သဘောချင်း မတိုက်ဆိုင်၍ လင်မယား ကွာရှင်းပြတ်စဲပြီး ဖြစ်သော်လည်း ကြာရှည်လေးမြင့်စွာ ပေါင်းသင်းဆက်ဆံလာခဲ့သော သံယောဇဉ်ကြောင့် ငုပ်လျှိုးနေသော မသိစိတ်က ပြန်လည်ပေါ်ထွက်လာတတ်သည်မို့ မကြာခဏ တွေတွေဝေဝေ ဖြစ်တတ်သည်မှာ သဘာဝပင် ဖြစ်သည်။

(၁) ယင်းသို့ဖြစ်လာသည့်အခါ 'သံယောဇဉ် (တပ်မက်စွဲလမ်းမှု) ကြောင့် စိုးရိမ်ပူပန်မှု ဖြစ်ရသည်။ ကိုယ် စိတ်ဆင်းရဲ ဖြစ်ရသည်။ ထိတ်လန့်ကြောက်ရွံ့မှု ဖြစ်ရသည်။ ယင်းတပ်မက်စွဲလမ်းမှု မရှိလျှင် စိုးရိမ်ပူပန်မှု ဖြစ်မည်မဟုတ်။ ကိုယ်စိတ်ဆင်းရဲမှုလည်း ဖြစ်တော့မည်မဟုတ်။ ထိတ်လန့်ကြောက်ရွံ့မှုလည်း ဖြစ်တော့မည်မဟုတ်ပါ။ ကာမဂုဏ်ကြောင့် စိုးရိမ်ပူပန်ရသည်၊ ကိုယ် စိတ်ဆင်းရဲရသည်၊ ကြောက်ရွံ့ထိတ်လန့်ရသည်။ ယင်းကာမဂုဏ် အာရုံတွေအပေါ် စွဲလမ်းမှုမရှိလျှင် စိုးရိမ်ပူပန်စရာ၊ ကိုယ်စိတ်ဆင်းရဲစရာ၊ ကြောက်ရွံ့ထိတ်လန့်စရာ မလိုတော့'

ဟု တပ်မက်စွဲလမ်းမှု ကာမဂုဏ်တို့၏အပြစ်ကို ဆင်ခြင်လျက် တွေတွေဝေဝေ ဖြစ်မှုကို ဖြေဖျောက်ရသည်။ အရဟံ စသော ဘုရားဂုဏ်တော်များကို အာရုံယူလျက် ပွားများခြင်း၊ ပုတီးစိပ်ခြင်း၊ ဓမ္မပဒ စသော တရားတော်များကို နာယူခြင်း၊ သံဝေဂ လင်္ကာကဗျာများ ရွတ်ဖတ်ခြင်းများ ပြုလုပ်ပေးရသည်။

**တဏှာယ ဇာယတီ သောကော၊ တဏှာယ ဇာယတီ ဘယံ။**
**တဏှာယ ဝိပ္ပမုတ္တဿ၊ နတ္ထိ သောကော ကုတော ဘယံ။**
**ကာမတော ဇာယတီ သောကော၊ ကာမတော ဇာယတီ ဘယံ။**
**ကာမတော ဝိပ္ပမုတ္တဿ၊ နတ္ထိ သောကော ကုတော ဘယံ။**
(ဓမ္မပါဒ ပါဠိတော်ဂါထာများ၊ ၂၁၆၊ ၂၁၅)

ချစ်ခင်ပေါင်းသင်း၊ ဆက်ဆံခြင်းကား၊ ကွေကွင်းနောက်ဆုံးပါတကား။

နနယ်ရုပ်ဆင်း၊ ပျိုမျစ်ခြင်းကား၊ အိုခြင်း နောက်ဆုံးပါတကား။

ရောဂါကင်းရှင်း၊ ကျန်းမာခြင်းကား၊ နာခြင်း နောက်ဆုံးပါတကား။

ဇီဝိန်တင်းလင်း၊ သက်ရှည်ခြင်းကား၊ သေခြင်း နောက်ဆုံးပါတကား။

တက်ကြွားကြွကြွ၊ မောက်လွန်းကလည်း၊ လျော့ကျ နောက်ဆုံးပါတကား။

ခြွေရံသင်းပင်း၊ ပြည့်စုံခြင်းကား၊ ယိုယွင်း နောက်ဆုံးပါတကား။

စည်းစိမ်ပြည့်တင်း၊ ချမ်းသာခြင်းကား၊ မွဲခြင်း နောက်ဆုံးပါတကား။

စသော ပါဠိဂါထာများ၊ သံဝေဂဖြစ်ဖွယ် လင်္ကာကဗျာများကို ရွတ်ဖတ်ခြင်း၊ ပုတီးစိပ်ခြင်း၊ တရားမှတ်ခြင်းတို့ဖြင့် မိမိ၏ စိတ်တွေဝေမှုကို ဖြေဖျောက်နိုင်သည်။

(၂) မိမိနှင့် ကွာရှင်းပြတ်စဲပြီးသူတို့အတွက် ကျင့်သုံးလိုက်နာရမည့် သီလကား ကိုယ်ကျင့်သီလပင် ဖြစ်သည်။ အထူးသဖြင့် **'ကာမေသုမိစ္ဆာစာရကံ** (မိမိ၏ဇနီးမှ တစ်ပါးသောမိန်းမ/ မိမိ၏ခင်ပွန်းမှ တစ်ပါးသောယောကျ်ားဖြင့် ကာမဆက်ဆံမှု) မှ ရှောင်ကြဉ်ရမည့်' ဖြစ်ပါသည်။



အမှတ် (၁၉)

သိလျက်လွန်ကျူး၊ မသိကျူးသည့်၊ နှစ်ဦးသူတွင်၊

ဘယ်လူရှင်၊ လွန်ပင် အပြစ်ကြီးမည်နည်း ?

မေး ။ ။ အရှင်ဘုရား. . .

အပြစ်ကို သိလျက်နှင့် မကောင်းမှု လွန်ကျူးသူနှင့် အပြစ်ကို မသိ၍ မကောင်းမှုလွန်ကျူးသူ နှစ်ဦးတွင် အဘယ်သူက ပို၍အပြစ်ကြီးပါသလဲ ဘုရား။ တပည့်တော်က အပြစ်ကို သိလျက်နှင့် မကောင်းမှုလွန်ကျူးသူက ပို၍အပြစ်ကြီးသည်ဟု ယူဆမိပါသည် ဘုရား။

ဦးမြတ်ဆွေ *(San Francisco)*

ဖြေ ။ ။ ဦးမြတ်ဆွေ၏ မေးခွန်းမျိုးကို မိလိန္ဒမင်းကြီးက အရှင်နာဂသေနမထေရ်အား မေးခဲ့ဖူးသည်။ ဦးမြတ်ဆွေ ယူဆသကဲ့သို့ မိလိန္ဒမင်းကြီးလည်း ယူဆခဲ့ဖူးသည်။ လူစောဆိုသူကလည်း လုံးတော်ဆရာတော်ဘုရားကြီးအား မေးခဲ့ဖူးသည်။

မိလိန္ဒမင်းကြီးက 'သူ့နိုင်ငံတွင် အပြစ်ကိုသိလျက် ရာဇဝတ်မှု ကျူးလွန်သော မင်းသား၊ မှူးမတ် စသည်တို့သည် အပြစ်ကိုမသိ၍ ရာဇဝတ်မှု ကျူးလွန်သူတို့ထက် အပြစ်ဒဏ် နှစ်ဆ ကြီးမားစေသည်' ဟူသော မင်းဥပဒေကို ကိုင်စွဲလျက်-

"အရှင်နာဂသေနဘုရား. . . အပြစ်ကိုသိလျက်နှင့် မကောင်းမှုပြုသူနှင့် အပြစ်ကိုမသိ၍ မကောင်းမှုပြုသူ နှစ်ဦးတို့တွင် အဘယ်သူက သာလွန်၍အပြစ်ကြီးပါသနည်း" ဟု လျှောက်ထားသည်။

အရှင်နာဂသေနမထေရ်က- "အရှင်မင်းကြီး. . . အလျှံတပြောင်ပြောင်တောက်နေသော သံတွေခဲကို သိလျက် ကိုင်သောသူမှာ အဆင်အခြင် အတိုင်းအထွာ ရှိသောကြောင့် ပြင်းစွာ မပူလောင်၊ အလျှံတပြောင်ပြောင် တောက်လောင်နေသော သံတွေခဲဟု မသိ၍ ကိုင်သူမှာကား အဆင်အခြင်၊ အတိုင်းအထွာမရှိ ကိုင်မိသောကြောင့် အလွန်ပြင်းထန်စွာ လောင်ရာသကဲ့သို့ မကောင်းမှု၏ အပြစ်ကို မသိသောကြောင့် အပြစ်မရှိဟု ထင်မှတ်၍ စေတနာထက်သန်စွာ စွမ်းအားရှိသမျှ လုံ့လပြုလုပ် အားထုတ်သူမှာ သာလွန်၍ အပြစ်ကြီးသည်'[၂၆] ဟု မိန့်တော်မူခဲ့ပါသည်။

လုံးတော်ဆရာတော်ဘုရားကြီးကလည်း 'ဆူးငြောင့် စသည်ကို ရှိမှန်းမသိ၍ ပြင်းပြစွာ နင်းမိသူကဲ့သို့ အပြစ်ကို မသိသောသူက အဆင်အခြင်မရှိ စိတ်အားထက်သန်စွာ စွမ်းအားရှိသမျှ လုံ့လပယောဂဖြင့် ပြုသောကြောင့် သာလွန်၍ အပြစ်ကြီးကြောင်း' ကို **ပကိဏ္ဏကဝိသဇ္ဇနာကျမ်း၊ ပထမတွဲ၊ စာမျက်နှာ ၂၃၈** ၌ ဖြေဆိုမိန့်ကြားခဲ့ပါသည်။

[၂၆] မိလိန္ဒပဉှာ (ခု၊ ၁၀၊ ၉၀)

'မီးအားကောင်းသော မီးဖိုပေါ်မှ ချခါစ ဆီဝေ့နေသော ဘူးသီးဟင်းချိုကို သောက်ရာတွင် ပူမှန်းသိသောကြောင့် သတိထားကာ သောက်သူမှာ အပူသက်သာ၍ ပူမှန်းမသိသောကြောင့် သတိမထားဘဲ အားရှိပါးရှိ သောက်သူမှာကား ပြင်းစွာပူလောင်ခြင်းကို ခံရဘိသကဲ့သို့ အပြစ်ကိုမသိ၍ ကျူးလွန်သူမှာ စိတ်အားထက်သန် လုံ့လလည်း ပြင်းထန်စွာ ပြုသောကြောင့် သာလွန်၍ အပြစ်ကြီးကြောင်း'ကို ယုံမှားကင်းစွာ မှတ်ယူပါလေ။

**မသိကျူးလျှင်၊ ထိုလူရှင်၊ လွန်ပင် အပြစ်ကြီးသတည်း။**
**(အပြစ်မသိ၊ လွန်ကျူးမိသည့်၊ ထို၏လူရှင်၊**
**အမှန်လျှင်၊ လွန်ပင် အပြစ်ကြီးသတည်း။)**



## အမှတ် (၂၀)
## သူ၏ဖိနပ်၊ ယူစီးလတ်၊ စိတ်ဓာတ် ဘယ်ပုံနည်း ?

မေး ။ ။ အရှင်ဘုရား . . .

ကျောင်းအလှူပွဲတစ်ခုတွင် ဧည့်ပရိသတ်များ လာရောက်ကြရာ လူငယ်တစ်ယောက်၏ ခြေညှပ်ဖိနပ်ကို အခြားသူတစ်ယောက်က အလွယ်တကူ စီးသွားပါသည်။ လူငယ်က ဖိနပ်စီးမည်ဟု ကြည့်သောအခါ မိမိဖိနပ်ကိုမတွေ့၍ စိတ်ဆိုးကာ 'လူတွေက ကျောင်းလာ ငါးပါးသီလသာယူပြီး ငါးပါးသီလ မစောင့်ထိန်းကြ' ဟု မြည်တွန်ပြောဆိုပါသည်။ အလွယ်တကူ စီးသွားသူက သူ့ကိစ္စပြီးလျှင် ပြန်လာ၍ ထားခဲ့ပါသည်။

ဤဖြစ်ရပ်နှင့်ပတ်သက်၍ လူငယ် ပြောသည့်အတိုင်း သူ၏ ဖိနပ်စီးသွားသူမှာ သီလပျက်၊ မပျက်၊ အဒိန္နာဒါန်ကံ ထိုက်၊ မထိုက် သိလိုပါသည်ဘုရား။

အေးအေးမျိုး (*San Francisco*)

ဖြေ ။ ။ ဒီမေးခွန်းနှင့်ပတ်သက်၍ ခိုးမှု (အဒိန္နာဒါန်ကံ) ထိုက်ရန် အင်္ဂါများကို သိဖို့လိုပါသည်။

၁။ သူတစ်ပါး၏ ပစ္စည်းဥစ္စာလည်း ဖြစ်ခြင်း၊

၂။ သူတစ်ပါး၏ ပစ္စည်းဥစ္စာဟူ၍လည်း အမှတ်ရှိခြင်း၊

၃။ ခိုးယူလိုသောစိတ်လည်း ရှိခြင်း၊

၄။ ခိုးယူရန် လုံ့လအားထုတ်မှုလည်း ပြုခြင်း၊

၅။ ခိုးလည်း ခိုးယူခြင်း၊

ဤငါးပါး[၂၃] ပြည့်စုံရန် လိုအပ်ပါသည်။ ဤ မိမိ၏ဖိနပ်ကို အခြားသူ စီးမှုနှင့်ပတ်သက်၍ ပုဂ္ဂိုလ်ငါးမျိုးကို သိမှတ်သင့်ပါသည်။

၁။ သူတစ်ပါး၏ဖိနပ်ကို အလွယ်တကူ စီးသွား၍ပြန်ထားသူ၊

၂။ သူတစ်ပါး၏ဖိနပ်ကို အလွယ်တကူ စီးသွားပြီး တစ်နေရာရာ၌ ထားခဲ့သူ၊

၃။ သူတစ်ပါး၏ဖိနပ်ကို စီး၍ အပိုင်ယူသွားသူ၊

၄။ ဖိနပ်ချင်း ဆင်တူယိုးမှားဖြစ်၍ သူတစ်ပါး၏ဖိနပ်ကို မိမိ၏ဖိနပ်ထင်၍ စီးသွားသူ၊

၅။ မိမိ၏ မကောင်းသောဖိနပ်ကို ထားခဲ့ကာ သူတစ်ပါး၏ ကောင်းသောဖိနပ်ကို စီးသွားသူ-ဟူ၍ ပုဂ္ဂိုလ်ငါးမျိုး ရှိပါသည်။

[၂၃] အဋ္ဌသာလိနီအဋ္ဌကထာ (အဘိ၊ ဋ္ဌ၊ ၁၊ ၁၄၀)

အမှတ် ၁ နှင့် အမှတ် ၂ ပုဂ္ဂိုလ်တို့သည် **'ခိုးယူလိုစိတ် မရှိသောကြောင့်'** ခိုးမှု (အဒိန္နာဒါန်ကံ) မထိုက်ကြပါ။ သို့သော် လူ့ယဉ်ကျေးမှု အရ ဤအလှူပွဲတော်လို နေရာမျိုး၌ သူတစ်ပါး၏ဖိနပ်ကို အသိမပေးဘဲ မစီးသင့်ကြပါ။

အမှတ် ၃ နှင့် အမှတ် ၅ ပုဂ္ဂိုလ်တို့သည် **'မရိုးမသား ခိုးလိုသော စိတ်ထား ရှိကြသောကြောင့်'** ခိုးမှုကံထိုက်ကြပါသည်။

အမှတ် ၄ ပုဂ္ဂိုလ်ကား **'မိမိပစ္စည်းဟု ထင်မှတ်သောကြောင့်'** ခိုးမှုကံမထိုက်ပါ။ သို့သော် မိမိ၏ဖိနပ် မဟုတ်မှန်း သိသောအခါ သူတစ်ပါး၏ဖိနပ်ကို ပြန်လည်ထား၍ မိမိ၏ဖိနပ်ကိုသာ စီးသင့်ပါသည်။

ထို့ကြောင့် လူငယ်၏ဖိနပ်ကို အလွယ်တကူ စီးသွားသူသည် အမှတ် ၁ - ပုဂ္ဂိုလ်အမျိုးအစားဖြစ်၍ အဒိန္နာဒါန်ကံ မထိုက်ပါ။



အမှတ် (၂၁)

**သာရေး၊ နာရေး၊ ရှေ့နောက်ရွေး၊ ရွတ်ပေး ဘယ့်ကြောင့်နည်း ?**

မေး ။ ။ အရှင်ဘုရား. . .

တပည့်တော်တို့မြို့၌ ဆရာတော်၊ သံဃာတော်များက သာရေးကိစ္စ၌ ပရိတ်ရွတ်ကြပါသော်လည်း နာရေးကိစ္စ၌ကား ပရိတ်မရွတ်ကြပါ။ အဘယ့်ကြောင့် သာရေးကိစ္စ၌သာ ပရိတ် ရွတ်ကြ၍ နာရေးကိစ္စ၌ ပရိတ်မရွတ်ကြပါသလဲ ဘုရား။

ဦးမြတ်နွယ် (လပွတ္တာ-မြန်မာပြည်)

ဖြေ။ ။ ဘုန်းကြီးတို့ ဆရာအစဉ်အဆက် ကျင့်သုံးသောဝါဒမှာ-

သာရေးကိစ္စ၌ သီလပေး, **ပရိတ်ရွတ်**, တရားဟော, အမျှဝေ ရေစက်ချ၍ နာရေးကိစ္စ၌ကား သီလပေး, တရားဟော, အမျှဝေ ရေစက်ချပြီးမှ **ပရိတ်ရွတ်**ကြပါသည်။

| **သာရေးကိစ္စ** | **နာရေးကိစ္စ** |
| --- | --- |
| **၁။ သီလပေး** | **၁။ သီလပေး** |
| **၂။ ပရိတ်ရွတ်** | **၁။ တရားဟော** |
| **၃။ တရားဟော** | **၃။ အမျှဝေ ရေစက်ချ** |
| **၄။ အမျှဝေ ရေစက်ချ** | **၄။ ပရိတ်ရွတ်** |

သာရေးကိစ္စ၌ အထူးပြောဖွယ် မရှိသော်လည်း နာရေးကိစ္စ၌မူ ကွယ်လွန်သူက ကုသိုလ်ကောင်းမှု အဖို့ဘာဂကို မျှော်လင့်တောင့်တနေသော ပြိတ္တာမျိုးဝယ် ဖြစ်နေခဲ့သော် ကုသိုလ်ကောင်းမှု ပြုလုပ်ရာ ပတ်ဝန်းကျင်၌ မလွဲမသွေ ရှိနေပေလိမ့်မည်။ အကယ်၍ အမျှမဝေမီ ပရိတ်ရွတ်ပါက **'သမန္တာ စက္ကဝါဠေသု. . .'** စသည်ဖြင့် နတ်များကို ပင့်ဖိတ်လိုက်သောကြောင့် တန်ခိုးကြီးမား နတ်အများတို့ ကြွလာခဲ့ကြသော် ထိုပြိတ္တာသည် အနီးပတ်ဝန်းကျင်၌ မနေနိုင်ဘဲ ဝေးစွာရှောင်ရှားသွားရပေတော့မည် ဖြစ်၍ အမျှဝေသံကိုလည်း ကြားနိုင်တော့မည် မဟုတ်ပါ။ ကောင်းမှုအဖို့ကိုလည်း ရနိုင်တော့မည် မဟုတ်ပါ။ ထိုကောင်းမှုအဖို့ကို မရလျှင် ထိုပြိတ္တာဘဝမှ မကျွတ်လွတ်နိုင်ပါ။ ထို့ကြောင့် **အမျှဝေပြီးမှ ပရိတ်ရွတ်သောအခါ** ကောင်းမှုအဖို့ကိုရ၍ ချက်ချင်း ပြိတ္တာဘဝမှ ကျွတ်လွတ်သွားပြီဖြစ်၍ ဝေးစွာရှောင်ရှားသွားဖွယ်ရာ မလိုတော့သောကြောင့် **'နာရေးကိစ္စ၌ အမျှဝေပြီးမှ ပရိတ်ရွတ်ခြင်း'** ဖြစ်ပါသည်။

ဦးမြတ်နွယ်တို့၏ ဆရာတော်၊ သံဃာတော်များသည် ထိုရည်ရွယ်ချက်ဖြင့် နာရေးကိစ္စ၌ ပရိတ်မရွတ်ခြင်း ဖြစ်ဟန်တူပါသည်။



## အမှတ် (၂၂)
## နတ်ကိုးကြောင်းဆုံ၊ သရဏဂုံ၊ ပျက်တုံနိုင်သလော ?

မေး ။ ။ အရှင်ဘုရား . . .

ကမ္မဋ္ဌာန်းပြဆရာတော်တစ်ပါးက **'ယောဂီများသည် အိမ်၌ နတ်အုန်းသီးဆွဲခြင်း၊ နတ်ကိုးကွယ်ခြင်းများကို မပြုလုပ်ရ၊ ထိုသို့ပြုလုပ်လျှင် သရဏဂုံပျက်သည်'** ဟု ဟောပြောပါသည်။ တပည့်တော်များသည် မိဘရိုးရာ နတ်အုန်းသီးဆွဲခြင်း၊ ရံဖန်ရံခါ နတ်ကိုးခြင်းများကို ပြုလုပ်ရပါသည်။ မပြုလုပ်မိလျှင် နတ်ဖမ်းစားခြင်း ခံရတတ်သည်ဟု ဘိုးဘွားမိဘ စဉ်လာစကားကို ယုံကြည်နေကြပါသည်။ သို့ဖြစ်ပါ၍ ကမ္မဋ္ဌာန်းပြဆရာတော် ဟောပြောသကဲ့သို့ သရဏဂုံပျက်နိုင်ပါသလား ဘုရား။

ဦးလှငွေ (လပ္ပတ္တာ-မြန်မာပြည်)

ဖြေ ။ ။ ပုထုဇဉ်အနေဖြင့် သရဏဂုံပျက်ခြင်း[၂၈] သည် (၁) သေ၍ သရဏဂုံပျက်ခြင်း၊ (၂) ဘာသာအယူတစ်ပါးသို့ ပြောင်းသွား၍ သရဏဂုံ ပျက်ခြင်းဟူ၍ နှစ်မျိုးရှိပါသည်။ သေ၍ သရဏဂုံပျက်ခြင်းကို

[၂၈] သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာ၊ သာမညဖလသုတ်၊ သရဏဂမနကထာ (ဒီ၊ ဋ္ဌ၊ ၁၊ ၂၀၉)

အထူး ပြောဖွယ် မလိုသော်လည်း ဘာသာအယူတစ်ပါး ပြောင်းသွား၍ သရဏဂုံ ပျက်ခြင်းကိုကား ကောင်းစွာနားလည်ဖို့ လိုပါသည်။

မိမိ ယုံကြည်လက်ခံထားသော ဗုဒ္ဓဘာသာကို စွန့်၍ (မကိုးကွယ်တော့ဘဲ) အခြားဘာသာတစ်ခုခုကို ယူသွား၊ လက်ခံသွားလျှင် သရဏဂုံ ပျက်တော့သည်။ အမှန်တော့ မိမိ လက်ရှိခံယူထားသော ဘာသာထက် အခြားဘာသာက ကောင်းသည်၊ မြတ်သည်ဟု ယူဆကာ မိမိ လက်ခံထားသော ဘာသာကိုစွန့်မှ သရဏဂုံပျက်သည်။

၁။ ဘာသာတစ်ပါးယူသော ဆွေမျိုးဘုန်းကြီးကို 'ဒီဘုန်းကြီးသည် ငါ၏ဆွေမျိုး ဖြစ်၏' ဟု ဆွေမျိုးအနေဖြင့် အရိုအသေပြုခြင်း၊ ရှိခိုးခြင်း။

၂။ မင်းကို အရိုအသေမပြု၊ ရှိမခိုးလျှင် ဘေးအန္တရာယ်ဖြစ်နိုင်၍ ကြောက်သဖြင့် အရိုအသေပြုခြင်း၊ ရှိခိုးခြင်း။

၃။ အယူမှားနေသော ဆရာကို ဆရာအနေဖြင့် အရိုအသေပြုခြင်း၊ ရှိခိုးခြင်းတို့သည် **သရဏဂုံ မပျက်နိုင်ကြောင်းကို** သီလက္ခန္ဓဝဂ္ဂအဋ္ဌကထာ၊ သာမညဖလသုတ်အဖွင့် (ဒီ၊ ဋ္ဌ၊ ၁၊ ၂၀၇-၂၀၈) ၌ လာရှိပါသည်။

ဦးလှငွေ၏ မေးခွန်းအရ **'ရတနာသုံးပါးထက် နတ်က မြတ်သည်'ဟု ခံယူချက်မဟုတ်ဘဲ နတ်ဖမ်းစားခံရမည်၊ နတ်ကိုင်မည်ကို ကြောက်သောကြောင့်သာ နတ်အုန်းသီးဆွဲရခြင်း၊ နတ်ကိုးရခြင်း၊ နတ်ပူဇော် ပသရခြင်းတို့ ဖြစ်၍ သရဏဂုံ မပျက်နိုင်ပါ။**



အမှတ် (၂၃)

ဘုရားရှင်တော်၊ ဘယ်ကပ်နော်၊ နေသော်ဖြစ်မည်နည်း ?

မေး ။ ။ အရှင်ဘုရား. . .

မဟာပရိနိဗ္ဗာနသုတ်၌ ဘုရားရှင်က ညီတော်အာနန္ဒာအား "အာနန္ဒာ. . . ဣဒ္ဓိပါဒ်လေးပါးကို ပွားများသူသည် ကပ္ပ ပတ်လုံးလည်း အသက်ရှည်တည်နိုင်၏။ ကပ္ပထက် အနည်း ငယ်ပိုလွန်၍လည်း အသက်ရှည်တည်နိုင်၏" ဟု လာရှိ သော **'ကပ္ပံ ဝါ၊ ကပ္ပါဝသေသံ ဝါ'** တို့၌ **'ကပ္ပ၊ ကပ္ပါဝသေသ'** တို့၏ အနက်အဓိပ္ပာယ်၊ လိုအပ်သော ကပ္ပအမျိုးအစားကို သိလိုပါသည်ဘုရား ?

*Mr.Kousuke Sekiuchi (Iwaki City, Japan)*

ဖြေ ။ ။ မဟာပရိနိဗ္ဗာနသုတ်၊ နိမိတ္တောဘာသကထာ၌ လာသော **'ကပ္ပံ၊ ကပ္ပါဝသေသံ'** တို့၏အရ ကပ္ပ (ကပ်) ကို မရှင်းပြမီ ကပ္ပ(ကပ်) လေးမျိုးကိုသိထားဖို့ လိုပါသည်။

**ကပ်မျိုးလေးဖြာ သိစရာ**

၁။ အာယုကပ္ပ- ကာလအားလျော်စွာ သတ်မှတ်ထားသော လူတို့၏ အသက်အပိုင်းအခြားသည် **'အာယုကပ်'** မည်၏။

၂။ အန္တရကပ္ပ- အသင်္ချေယျသက်တမ်းမှ တဖြည်းဖြည်းဆုတ် ၍ ဆယ်နှစ်သက်တမ်းတိုင်အောင်၊ ဆယ်နှစ်သက်တမ်းမှ တရွေ့ရွေ့ တက်၍ အသင်္ချေယျ သက်တမ်းတိုင်အောင် ဆုတ်ကပ်၊ တက်ကပ်

တစ်စုံသည်(အသင်္ချေယျကပ်၏ အတွင်း၌ သတ်မှတ်ထားသော အပိုင်းအခြား ဖြစ်သောကြောင့်) **'အန္တရကပ်'** မည်၏။

၃။ အသင်္ချေယျကပ္ပ- အန္တရကပ် ၆၄-ကပ်သည် (သို့မဟုတ် ကေစိဆရာတို့အလို) အန္တရကပ် ၂၀ သည် (နှစ်ပေါင်း ဤမျှ ဤမျှ ရှိ၏ဟု ရေတွက်မှန်းဆ၍ မဖြစ်နိုင်လောက်အောင် ရှည်လျားသော အချိန်ကာလဖြစ်သောကြောင့်) **'အသင်္ချေယျကပ်'** မည်၏။

၄။ မဟာကပ္ပ- အသင်္ချေယျ လေးကပ်သည် (အလျား၊ အနံ တစ်ယူဇနာ (၇-မိုင်ခန့်) ရှိသော မုန်ညင်းဖြူစေ့ပုံမှ အနှစ်တစ်ရာ ပြည့် သောအခါ၌ တစ်စေ့ယူ၍ပစ်သော် မုန်ညင်းဖြူစေ့ပုံသည်သာ ကုန်ရာ သော်လည်း ဤကပ်ကား မကုန်နိုင်လောက်အောင် အလွန့်အလွန် ရှည်ကြာလှသော အချိန်ကာလ ဖြစ်သောကြောင့်) **'မဟာကပ်'** မည်၏။

ကီဝ ဒီဃော နုခေါ ဘန္တေ ကပ္ပေါတိ? ဒီဃော ခေါ ဘိက္ခုဝေ ကပ္ပေါ၊ သော န သုကရော သင်္ခါတုံ 'ဧတ္တကာနိ ဝဿာနိ' တိ ဝါ၊ 'ဧတ္တ ကာနိ ဝဿသတာနိ' တိဝါ 'ဧတ္တကာနိ ဝဿသဟဿာနိ' တိ ဝါ 'ဧတ္တကာနိ ဝဿသတသဟဿာနိ' တိ ဝါ၊ သက္ကာ ပန ဘန္တေ ဥပမံ ကာတုန္တိ? 'သက္ကာ ဘိက္ခူ' တိ ဘဂဝါ အဝေါစ၊ သေယျထာပိ ဘိက္ခု ယောဇနံ အာယာမေန ယောဇနံ ဝိတ္ထာရေန ယောဇနံ ဥဗ္ဗေဓေန မဟာ သာသပရာသိ၊ တတော ဝဿသတဿ ဝဿသတဿ အစ္စယေန ဧကမေကံ သာသပံ ဥဒ္ဓရေယျ၊ ခိပ္ပတရံ ခေါ သော ဘိက္ခု မဟာသာသပ ရာသိ ဣမိနာ ဥပက္ကမေန ပရိက္ခယံ ပရိယာဒါနံ ဂစ္ဆေယျ န တွေဝ ကပ္ပေါ၊ ဧဝံ ဒီဃော ဘိက္ခု ကပ္ပေါ' တိ။[၂၉]

[၂၉] နိဒါနဝဂ္ဂသံယုတ် အနမတဂ္ဂ သာသပသုတ် (သံ၊ ၁၊ ၃၉၀)

သွာယံ မဟာကပ္ပေါ သံဝဋ္ဋာဒိဝသေန စတုအသင်္ချေယျ ကပ္ပသင်္ဂဟော။ ဝုတ္တမ္ပိ စေတံ-

‘စတ္တာရိမာနိ ဘိက္ခဝေ ကပ္ပဿ အသင်္ချေယျာနိ၊ ကတမာနိ စတ္တာရိ။ သံဝဋ္ဋ သံဝဋ္ဋဋ္ဌာယီ ဝိဝဋ္ဋော ဝိဝဋ္ဋဋ္ဌာယီ’ တိ။ [၃၀]
(စရိယာပိဋက အဋ္ဌကထာ၊ ၁၁။)

စတုဗ္ဗိဓာ ဟိ ကပ္ပါ မဟာကပ္ပေါ အသင်္ချေယျကပ္ပေါ အန္တရကပ္ပေါ အာယုကပ္ပေါတိ။ တတ္ထ အာယုကပ္ပေါ နာမ တေသံ တေသံ သတ္တာနံ တံတံ အာယုပရိစ္ဆေဒေါ ဝုစ္စတိ။ အန္တရကပ္ပေါ နာမ ဧကဿ ဝိဝဋ္ဋဋ္ဌာယီ အသင်္ချေယျဿ အဗ္ဘန္တရေ မနုဿာနံ အာယုကပ္ပဿ ဟာယနဝဍ္ဎနဝသေန ဒိဿမာနန္တရာ စတုသဋ္ဌိပဘေဒါ ဗျူဠကပ္ပါ ဝုစ္စန္တိ။ ဝီသတိဘေဒါတိ ကေစိ။ အသီတိဘေဒါတိ အပရေ။ စုဒ္ဒသပ္ပဘေဒါတိ ဝေဒဝိဒူ။ ယေ လောကေ မန္ဝန္တရကပ္ပါတိ ဝုစ္စန္တိ။ ဧကမေကေန မနုနာမကေန မဟာသမ္မတရာဇေန ဥပလက္ခိတာ အန္တရကပ္ပါတိ ဝုတ္တံ ဟောတိ။ ကေစိ ပန ဧကသ္မိံ ဝိဝဋ္ဋဋ္ဌာယိမှိ မဟာသမ္မတရာဇာနံ ဧကမေဝ ကထယန္တိ။ စတုသဋ္ဌိအန္တရကပ္ပါ ပန ဧကော အသင်္ချေယျကပ္ပေါ နာမ။ သော စတုဗ္ဗိဓော သံဝဋ္ဋော သံဝဋ္ဋဋ္ဌာယီ ဝိဝဋ္ဋော ဝိဝဋ္ဋဋ္ဌာယီတိ။ တတ္ထ ဝိနဿမာနော ကပ္ပေါ သံ ဝဋ္ဋော၊ ယထာ ဝိနဋ္ဌံ တိဋ္ဌမာနော ကပ္ပေါ သံဝဋ္ဋဋ္ဌာယီ။ ဝဍ္ဎမာနော ကပ္ပေါ ဝိဝဋ္ဋော။ ယထာ ဝိဝဋ္ဋံ တိဋ္ဌမာနော ကပ္ပေါ ဝိဝဋ္ဋဋ္ဌာယီတိ ဝေဒိတဗ္ဗော။ တေ ပန စတ္တာရော အသင်္ချေယျကပ္ပါ ဧကော မဟာကပ္ပေါ နာမ။ ဧတ္ထ စ ယောဇနာယာမဝိတ္ထာရေ သေတသာသပရာသိမှိ ဝဿသတ ဝဿသတစ္စယေန ဧကေကဗီဇဟရဏေန ပရိက္ခီဏေပိ ဧကော မဟာကပ္ပေါ ပရိက္ခယံ န ဂစ္ဆတိ၊ ဧဝံ ဒီဃော မဟာကပ္ပေါတိ ဝေဒိတဗ္ဗော။

(ပရမတ္ထဒီပနီ၊ သင်္ဂဟမဟာဋီကာ၊ ၂၀၆။)

---

[၃၀] အင်္ဂုတ္တိုရ်ပါဠိတော် စတုက္ကနိပါတ် ကပ္ပသုတ် (အံ၊ ၁၊ ၄၆၀။)

စရိယာပိဋကအဋ္ဌကထာ၊ ပရမတ္ထဒီပနီ၊ သင်္ဂဟမဟာဋီကာ စသော ကျမ်းဂန် [၃၁] တို့၌ လာရှိပါသည်။

ဤမဟာပရိနိဗ္ဗာနသုတ် လာသော **'ကပ္ပ၊ ကပ္ပါဝသေသ'** တို့၌ **'ကပ္ပ'**အရမှာ ဘုရားရှင်လက်ထက်တော်က လူတို့၏သက်တမ်း **'အာယုကပ်'** ကို ယူရပါသည်။ ဤသုတ်တော်အရ ဘုရားရှင်၏ မိန့်တော်မူလိုရင်းမှာ 'ဣဒ္ဓိပါဒ် လေးပါးကို ပွားများသူသည် အသက်တစ်ရာပတ်လုံး (ကပ္ပ) လည်း အသက်ရှည် တည်နေနိုင်၏။ အသက်တစ်ရာထက် အနည်းငယ် ပိုလွန်၍ အသက် ၁၂၀၊ အသက် ၁၅၀၊ ၁၆၀ (ကပ္ပါဝသေသ) လည်း အသက်ရှည် တည်နေနိုင်၏။ အသက် ၂၀၀ အထိတော့ အသက်မရှည်နိုင်-ဟု ဆိုလိုပါသည်။

ကပ္ပန္တိ အာယုကပ္ပံ၊ တသ္မိံ တသ္မိံ ကာလေ ယံ မနုဿာနံ အာယုပ္ပမာဏံ ဟောတိ၊ တံ ပရိပုဏ္ဏံ ကရောန္တော တိဋ္ဌေယျ၊ **ကပ္ပါဝသေသံ** ဝါတိ 'အပ္ပံ ဝါ ဘိယျော' တိ ဝုတ္တဝဿသတတော အတိရေကံ ဝါ။

(ဒီဃနိကာယ်, မဟာဝဂ္ဂအဋ္ဌကထာ, မဟာပရိနိဗ္ဗာနသုတ်, နိမိတ္တောဘာသကထာဝဏ္ဏနာ၊ ၁၄၄။)

**မှတ်ချက်။** ။ [ဂျပန်ဘာသာဖြင့် ဖြေဆိုချက်များကို မြန်မာဘာသာပြန်ဆိုထားပါသည်။]



[၃၁] အင်္ဂုတ္တိုရ်ပါဠိတော် ပထမတွဲ (၄၆၀)၊ အင်္ဂုတ္တိုရ်ဋီကာ ဒုတိယတွဲ (၃၃၇)၊ တတိယတွဲ (၈၄)၊ ပါရာဇိကဏ် အဋ္ဌကထာ ပထမတွဲ (၁၅၉)၊ သာရတ္ထဒီပနီဋီကာ ပထမတွဲ (၂၇၇)၊ ဝိမတိဝိနောဒနီဋီကာ ပထမတွဲ (၈၀)၊ ဣတိဝုတ်အဋ္ဌကထာ (၂၉၈)၊ စူဠနိဒ္ဒေသ အဋ္ဌကထာ (၄၆)၊ ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ ပထမတွဲ (၃၂၆)၊ ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ဒုတိယတွဲ (၄၄)၊ ဝိသုဒ္ဓိမဂ် မဟာဋီကာ ဒုတိယတွဲ (၄၆)

အမှတ် (၂၄)

ဝါကျိုးဝါပျက် ထည့်ရေတွက်၊ မတွက် သိလိုသည်။

မေး ။ ။ အရှင်ဘုရား ့

၁၃၆၃ ခု ဝါဆိုလပြည့်နေ့တွင် မြန်မာပြည်၌ ထင်ရှား ကျော်ကြားတော်မူသော ဆရာတော်ကြီးတစ်ပါးက နိုင်ငံခြား ရေဒီယို အသံလွှင့်ဌာနတစ်ခုတွင် ဝါဆိုဝါကပ် တရားဟော ကြားရာဝယ် ဝါကျိုးဝါပျက်နှင့် ပတ်သက်၍ မိန့်တော်မူရာတွင် **'ဝါကျိုးဝါပျက်သော ရဟန်းသည် ထေရ်စဉ်ဝါစဉ် အရို အသေ ခံယူသောအခါ ဖြစ်စေ၊ ဥပုသ်ပဝါရဏာကို သာယာ သောအခါဖြစ်စေ ထိုကျိုးပျက်သောဝါကို ထည့်၍ မရေ တွက်ရ။ ကျိုးပျက်သောဝါကို ထည့်ရေတွက်၍ အကြီးအကဲ အဖြစ်ဖြင့် အရိုအသေခံခြင်း၊ ဥပုသ်ပဝါရဏာကို သာယာ ခြင်းသည် ပါရာဇိက ၂၄ ပါးတို့တွင် 'သံဝါသထေနက- ပေါင်းသင်းဆက်ဆံမှုကို ခိုးရာရောက်၍ ပါရာဇိကကျ သည်အထိ'** ဟောကြားတော်မူပါသည်။ ထိုဆရာတော်ကြီး ဟောကြားတော်မူသကဲ့သို့ ဝါကျိုးဝါပျက်ကို ရေတွက်၍ အကြီးအကဲ (ထေရ်ကြီးဝါကြီး) အဖြစ်ဖြင့် အရိုအသေခံရုံ၊ ဥပုသ်ပဝါရဏာကို သာယာရုံမျှဖြင့် **'သံဝါသထေနက** ဖြစ် နိုင်၊ မဖြစ်နိုင်' သိလိုပါသည် ဘုရား။

*ဝါကျိုးပျက်ဖူးသော ဘိက္ခု (U.S.A)*

ဖြေ ။ ။ ဝါကျိုးဝါပျက်နှင့် ပတ်သက်၍ စဉ်းစားဖွယ်မှာ ဘုရားရှင်သည် ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ် မိုး

ရာသီ ကာလဝယ် ခရီးသွားလာနေကြသော ရဟန်းတို့ကို လူတို့၏ ကဲ့ရဲ့ပြစ်တင်မှု အကြောင်းပြု၍ ရဟန်းတို့အား ဝါဆိုဝါကပ်ရန် ခွင့်ပြုပညတ်တော်မူချက် ဖြစ်သောကြောင့် ဘုရားရှင်၏ ဝေဠုဝန်ကျောင်းတော်ဝယ် ဝါဆိုတော်မူရာ ဒုတိယဝါ၊ တတိယဝါ၊ စတုတ္ထဝါ၊ သတ္တရသမဝါနှင့် ဝီသတိမဝါဟူ၍ ငါးဝါတို့ ရှိသည့်အနက် ဝီသတိမဝါမှတစ်ပါး ကျန်လေးဝါတို့တွင် တစ်ဝါဝါ ဝါဆိုတော်မူချိန်၌ ဝါကပ်ရန် ခွင့်ပြုတော်မူချက် ဖြစ်နိုင်၍ ဝါကပ်ရန် ခွင့်မပြုမီ နေခဲ့သောနှစ်များကို 'ဝါအဖြစ် ထည့်သွင်း၍ မရေတွက်အပ်ပြီလော?'။ အရှင်ကောဏ္ဍညမထေရ်အား **'ရတ္တညူ'** ဧတဒဂ်ရာထူး ပေးရာမှာလည်း ဘုရားရှင်၏ တပည့်များအနက် အရှင်မြတ်ထက် အရင်စော၍ ရဟန်းပြုသူ မရှိသေးဘဲ အရှင်မြတ်သည်သာ ပထမဆုံး ရဟန်းပြုသူဖြစ်လျက် ရဟန်းဖြစ်ရာ အချိန်ကာလကြာမြင့်စွာသော ညဥ့်တို့ကို သိသူ ဖြစ်သောကြောင့်သာ ထို**'ရတ္တညူ'** ဧတဒဂ်ဘွဲ့ကို ချီးမြှင့်တော်မူခြင်း ဖြစ်၏။ ဝါကျိုးဝါပျက် မပါဘဲ ရရှိထားသော ဝါတို့ကို ရေတွက်၍ **'ဝါအကြီးဆုံး'**အနေဖြင့် ချီးမြှင့်တော်မူခြင်း မဟုတ်နိုင်ပါ။

## သိက္ခာပဒံ၊ ရေတွက်ရန်၊ နည်းမှန် ညွှန်ထားပြီ။

ဘုရားရှင်သည် သိမ်အတွင်းဝယ် ဖြစ်ပြီးခါစ ရဟန်းသစ်အား **'တာဝဒေဝ ဆာယာ မေတဗ္ဗာ'** စသည်ဖြင့် ရဟန်းရက်ချုပ်ကို ပြောကြားပေးရန် မိန့်မှာတော်မူခဲ့၏။ ထိုသို့ ရဟန်းသစ်အား သူ၏ ရဟန်းရက်ချုပ်ကို ပြောကြားထားရခြင်းမှာ မိမိထက် အချိန်စော၍ ရဟန်းဖြစ်သူကို မိမိက အရိုအသေပြုနိုင်ရန်၊ မိမိအောက် နောက်ကျမှ ရဟန်းဖြစ်သူ၏ အရိုအသေပြုမှုကို မိမိက ခံယူနိုင်ရန် ဖြစ်ပါသည်။ အရင်ဖြစ်

သော ရဟန်းက ဝါကျိုးဝါပျက်ဖြစ်၍ နောက်မှဖြစ်သော ရဟန်းက ဝါမကျိုးဝါမပျက်ခဲ့လျှင် ထိုဆရာတော်ကြီး၏ အလိုအရ 'အလျှင်ဖြစ်သော ရဟန်းက နောက်မှဖြစ်သော ရဟန်းကို အရိုအသေပြုရ၊ ရှိခိုးရပေလိမ့်မည်။ ထိုသို့ယူဆလျှင် ဘုရားရှင်၏ ရဟန်းသစ်အား ပြောကြားပေးရန်မှာ 'သော- တာဝဒေဝ ဆာယာ မေတဗ္ဗာ- စသော ရဟန်းရက်ချုပ်စကားသည် အဓိပ္ပါယ်မရှိ ဖြစ်သွားနိုင်ပါသည်။'

## ကောက်ကျစ်စိတ်ထား ဝါလိမ်ငြားလည်း။

**'ဥပသမ္ပန္နော ကူဋဝဿံ ဂဏေန္တောပိ အသမဏော န ဟောတိ** (ဝိ၊ ဌ၊ ၃၊ ၃၀၃)' ဟူသော ဝိနည်း မဟာဝါအဋ္ဌကထာ မဟာခန္ဓကလာ စကားနှင့် **'ကူဋဝဿံ ဂဏေန္တောတိ** ကူဋဝဿံ ဂဏေတွာ သံဝါသံ သာဒိယန္တောတိ အဓိပ္ပါယော (သာရတ္ထ၊ ၃၊ ၂၅၉)' ဟူသော သာရတ္ထဒီပနီဋီကာလာ စကားတို့အရ 'ရဟန်းသည် ကောက်ကျစ်သော ဝါ (လိမ်ညာသောဝါ) ကို ရေတွက်၍ ပေါင်းသင်းဆက်ဆံမှုကို သာယာစေကာမူ ရဟန်း မဟုတ်တော့သည် မဟုတ်၊ ရဟန်းကောင်းပင် ဖြစ်၏'။ 'အရိုအသေခံခြင်း'၊ ဥပုသ်ပဝါရဏာကို သာယာခြင်းတို့ကြောင့် **'သံဝါသထေနက မဖြစ်' = 'ပါရာဇိက မကျ'** -ဟု ဆိုလိုပါသည်။ ဤကဲ့သို့ ကောက်ကျစ်သောစိတ်ဖြင့် (တစ်ဝါကြီးလုပ်၍) ဝါကို လိမ်ညာရေတွက်လျက် 'အရိုအသေခံကာ ဥပုသ်ပဝါရဏာကို သာယာသော ရဟန်းသည်ပင် ရဟန်းကောင်း ဖြစ်သေးလျှင် တစ်စုံတစ်ခုသော အကြောင်းကြောင့် ဝါမဆိုမိ'၊ ဝါဆိုမိသော်လည်း ဝါကျိုးပျက်ရသော ရဟန်းမှာကား ဝါကျိုးဝါပျက်ကို ထည့်သွင်းရေတွက်၍ အရိုအသေခံခြင်း၊ ဥပုသ်ပဝါရဏာကို သာယာခြင်းမျှဖြင့် အဘယ်မှာလျှင် 'သံဝါသ

ထေနက'ဖြစ်၍ ပါရာဇိက ကျတော့အံ့နည်း? သံဝါသထေနကလည်း မဖြစ်၍ ပါရာဇိကလည်း မကျပါ။

ထို့ကြောင့် ဘုရားရှင်၏ ဝါဆိုဝါကပ် ခွင့်ပြုတော်မူခြင်းသည် မိုးရာသီ၌ ခရီးသွားလာနေကြသော ရဟန်းတို့နှင့် ပတ်သက်၍ လူတို့၏ အကြည်ညိုမဲ့ ကဲ့ရဲ့မှုမှ ကင်းဝေးလျက် မိုးကာလဝယ် ပရိယတ်၊ ပဋိပတ် တရားများကို အားထုတ်နိုင်ကြစေရန် ခွင့်ပြုတော်မူခြင်း ဖြစ်၏။ ပုရိမ ဝါကပ်၍ ဝါကျိုးဝါပျက်မှု မရှိလျှင် ဝါဆိုသင်္ကန်းလာဘ်၊ ကထိန်ခံထိုက်၊ ကထိန် အကျိုးအာနိသင်များကို ရနိုင်ကြ၍ ဝါကျိုးဝါပျက်လျှင်ကား ထိုဝါဆိုသင်္ကန်းလာဘ်ကိုလည်း မရထိုက်၊ ကထိန်ကိုလည်း မခံထိုက်၊ ကထိန်အကျိုးအာနိသင်ကိုလည်း မရနိုင်ကြဟုသာ ပညတ်တော်မူခဲ့ပါသည်။ ဝါကျိုးဝါပျက်ရဟန်းကား သက်ဆိုင်သော လာဘ်လာဘ၊ အကျိုးအာနိသင်တို့ကို မရသည်မှတစ်ပါး သူ၏ရဟန်းဖြစ်ရာ နှစ်ကာလများ ယုတ်လျော့မသွားသောကြောင့် **ဝါကျိုးဝါပျက် နှစ်များကိုလည်း ထည့်သွင်းရေတွက်ရပါမည်။**

**ဝါကျိုးဝါပျက်၊ ထည့်ရေတွက်၊ ကျမ်းထွက်ညီပါသည်။**



အမှတ် (၂၅)

သူတစ်ပါးတွက်၊ ကိုယ့်ပြုချက်၊ သူ့တွက် ဖြစ်မည်လား ?

မေး ။ ။ အရှင်ဘုရား . .

တပည့်တော်မ၏ မိဘနှစ်ပါးတွင် မေမေသည် ဘာသာရေး ကိုင်းရှိုင်းပြီး ဖေဖေမှာ ဘာသာရေးကို မကိုင်းရှိုင်းပါ။ တပည့်တော်မသည် ဖေဖေ ကုသိုလ်ရရေးအတွက် အလှူ

*ဒါနပြုတိုင်း မိဘနှစ်ပါးအမည်နှင့် အမြဲလှူဒါန်းပါသည်။ ဤသို့ လှူဒါန်းခြင်းဖြင့် ဖေဖေသည် အလှူဒါနအကျိုးကို ခံစားရပါမည်လား ဘုရား။ အခြားနည်းလမ်းကောင်းများ ရှိပါက အကြံပေးတော်မူပါဘုရား။*

သမီးအေး *(San Francisco)*

ဖြေ။ ။ **'ကိုယ်တိုင်၊ တိုက်တွန်း၊ ချီးမွမ်း၊ စိတ်တူ'**

အင်္ဂုတ္တရနိကာယ်၊ ဒသကနိပါတ်၊ သာမညဝဂ်[၃၂] လာ ဒေသနာတော်အရ ကောင်းမှုကုသိုလ်ကို ဖြစ်စေ၊ မကောင်းမှု အကုသိုလ်ကိုဖြစ်စေ '(၁) ကိုယ်တိုင်ပြုလုပ်ခြင်း (၂) သူတစ်ပါးအား ပြုလုပ်ဖြစ်အောင် တိုက်တွန်းခြင်း (၃) သူတစ်ပါး ပြုလုပ်မှုကို ချီးမွမ်းခြင်း (၄) သူတစ်ပါး ပြုလုပ်မှု၌ သဘောတူနှစ်သက်ခြင်း'ဟူသော ဤအချက်လေးချက်တွင် တစ်ချက်ချက်နှင့် ပြည့်စုံလျှင် ကောင်းမှုအရာတွင် ကုသိုလ်ရ၍ မကောင်းမှုအရာတွင် အကုသိုလ်ရပါသည်။ မိဘတို့ ကုသိုလ်ရရေးအတွက် အလှူဒါနပြုလုပ်တိုင်း သူတို့အား အသိပေးပါ။ သူတို့က ချီးမွမ်းခြင်း၊ သဘောကျခြင်းဖြစ်လျှင် သူတို့လည်း ကုသိုလ်ရ၍ ကောင်းကျိုးကို ခံစားကြရပါလိမ့်မည်။



[၃၂] အင်္ဂုတ္တိုရ်ပါဠိတော် ဒသကနိပါက် သာမညဝဂ် (အံ၊ ၃၊ ၅၀၁)

## အမှတ် (၂၆)

## ရဟန်းတော်များ၊ သက်သတ်စား၊ မတား ဘယ့်ကြောင့်နည်း ?

မေး ။ ။ အရှင်ဘုရား. . .

ရဟန်းသံဃာများက သူ့အသက်ကို မသတ်ရန် ဟောပြောတားမြစ်ကြသော်လည်း သူ့အသားကို မစားရန် မတားမြစ်ကြပါ။ တပည့်တော်တို့သည် ပံ့သကူသား [၃၃] ကို စားကြသော်လည်း အကယ်၍ အသားမစားပါက အသက် သတ်သူလည်း ရှိမည်မဟုတ်ဟု ယူဆမိပါသည်။ ဤအချက်ကို တပည့်တော်တို့အား ရှင်းလင်းပေးတော်မူပါ ဘုရား။

မောင်ဇော် (*Daly City, California, U.S.A*)

ဖြေ ။ ။ **ပိဋကသုံးဖြာ၊ ထူးမိန့်မှာ၊ မလာသောကြောင့်တည်း။**

မောင်ဇော်၏ မေးခွန်းနှင့်ပတ်သက်၍-

၁။ ရဟန်းသံဃာများက သူ့အသားကို မစားရန် မတားမြစ်ခြင်း။

၂။ ပံသုကူအသားကို စားကြခြင်း။

၃။ အသားမစားပါက အသက်သတ်သူ ရှိမည်မဟုတ်ဟု ယူဆခြင်း။

ဤပြဿနာ သုံးချက် ပါရှိပါသည်။

---

[၃၃] ပံ့သကူအသားဟု ပြောဆိုသော အသုံးစကားသည် မမှန်ပါ။ ပံသုကူဟူသော မြန်မာဝေါဟာရသည် ပံသုကူလဟူသော ပါဠိဝေါဟာရမှ ဆင်းသက်လာသော စကား ဖြစ်၏။ မြေမှုန့်အစုအပုံ၊ မြေမှုန့်တွေ ကပ်နေသော အရာဝတ္ထု။ ဤနေရာ၌ကား 'ပံသုကူသား' ဟု ပြောဆိုခြင်းထက် 'ပဝတ္တမံသ- ဈေးမှာ ရောင်းချရန်ဖြစ်သော သေပြီးသော အသား'ဟု ပြောဆိုခြင်းက မှန်ကန်၏။

ထိုသုံးချက်တွင် သူ့အသားကို မစားရန်၊ သို့မဟုတ် အသက်သတ်လွတ်စားရန် ရည်ညွှန်းသော ပြဿနာသည် အဓိကအချက် ဖြစ်ပါသည်။

သက်သတ်လွတ်ခေါ် အသားစား ရှောင်ကြဉ်ရန် ပြဿနာကို ဝိနည်း၊ သုတ္တန်၊ အဘိဓမ္မာ၊ ပိဋကသုံးပုံ၌လာသော အဆိုအမိန့်များကို ကိုးကား၍ ဖြေရှင်းပေးပါမည်။

အသားစား ရှောင်ကြဉ်မှုဟာ ယခုခေတ်မှာသာ ပြဿနာအဖြစ် ပေါ်လာတာ မဟုတ်ပါဘူး၊ သာသနာ့ပ ရသေ့တွေရဲ့ အဓိကအကျင့် တစ်ခု ဖြစ်တယ်၊ သာသနာ့ပရသေ့တွေဟာ ဒီအကျင့်ကို အမှီပြုပြီး ဘုရားရှင်ကိုတောင် သူတို့လောက် မမြတ်တဲ့အနေနဲ့ ပြဿနာလုပ်၍ မေးခွန်းထုတ်ခဲ့သေးတယ်၊ ငါတို့ ဘုရားရှင်လက်ထက်တော်မှာတော့ ဒီပြဿနာကို စတင်ဖော်ခဲ့သူကား ဒေဝဒတ် ဖြစ်တယ်။

ဒေဝဒတ်ဟာ လာဘ်ပေါ်များလိုခြင်း၊ ပူဇော်သက္ကာရ အဝဝကို ရလိုခြင်းကို အကြောင်းပြုပြီး ဘုရားရှင်အား အမျိုးမျိုး သေကြောင်းကြံ ပါသော်လည်း မအောင်မြင်သောအခါ သံဃာသင်းခွဲရန်ကို နောက်ဆုံး လက်နက်အဖြစ် ပညာနည်းပါး လူပြိန်းများရဲ့ ကြိုက်လုံးဖြစ်တဲ့ အနု နည်းကိုသုံး၍ ဘုရားရှင်ထံ ချဉ်းကပ်လျှောက်ထားခဲ့တယ်။

အရှင်ဘုရား . . အရှင်ဘုရားသည် အလိုနည်းခြင်း၊ ရောင့်ရဲ လွယ်ခြင်း၊ ခေါင်းပါးအောင် ကျင့်ခြင်း၊ ခုတင်ကျင့်ခြင်း ကြည်ညိုဖွယ် ဖြစ်အောင် ကျင့်ခြင်း၊ ပဋိသန္ဓေနေမှု၊ သေမှု အသစ်မဖြစ်ရန် ကျင့်ခြင်း၊ လုံ့လကြိုးကုတ် အားထုတ်ခြင်းတို့၏ ဂုဏ်ကျေးဇူးကို နည်းအမျိုးမျိုးဖြင့် ဟောကြားတော်မူလေ့ရှိပါသည်။

F11/

တပည့်တော် ယခု လျှောက်ထားတောင်းဆိုမည့် အချက်ငါးချက်ဟာ အရှင်ဘုရား ဟောကြားတော်မူချက်များနှင့် အမှန်ပင် ကိုက်ညီပါလိမ့်မည် ဘုရား။

၁။ ရဟန်းများသည် တစ်သက်ပတ်လုံး တောရကျောင်းမှာသာ နေကြပါစေ၊ ရွာကျောင်းမှာ နေလျှင် အပြစ်အာပတ်သင့်ရောက်ပါစေ။

၂။ ရဟန်းများသည် တစ်သက်ပတ်လုံး ဆွမ်းခံ၍သာ စားကြပါစေ၊ ပင့်ဖိတ်၍ လှူအပ်သော ဆွမ်းကိုစားလျှင် အပြစ်အာပတ်သင့်ရောက်ပါစေ။

၃။ ရဟန်းများသည် တစ်သက်ပတ်လုံး ပံသုကူသင်္ကန်းကိုသာ ဝတ်ရုံကြပါစေ။ ဒကာ၊ ဒကာမ လှူသော သင်္ကန်းကို ဝတ်ရုံလျှင် အပြစ်အာပတ် သင့်ရောက်ပါစေ။

၄။ ရဟန်းများသည် တစ်သက်ပတ်လုံး သစ်ပင်ရင်း၌သာ နေထိုင်ကြပါစေ။ အမိုးအကာရှိသော ကျောင်းသို့ ကပ်ရောက်လျှင် အပြစ်အာပတ် သင့်ရောက်ပါစေ။

၅။ ရဟန်းများသည် တစ်သက်ပတ်လုံး သက်သတ်လွတ်သာ စားကြပါစေ။ သားငါးစားလျှင် အပြစ်အာပတ် သင့်ရောက်ပါစေ

ဟု လျှောက်ထား တောင်းဆိုသည်။

ဘုရားရှင်က “ဒေဝဒတ်၊ သင့်တောင်းဆိုချက်များဟာ မသင့်တော်လှပါဘူး။”

၁။ တောကျောင်းမှာ နေလိုသူက တောကျောင်းမှာနေ၍ ရွာကျောင်းမှာ နေလိုသူက ရွာကျောင်းမှာနေပါ။

၂။ ဆွမ်းခံစားလိုသူက ဆွမ်းခံစား၍ ပင့်ဖိတ်လှူအပ်သော ဆွမ်းကို စားလိုသူက ပင့်ဖိတ်လှူအပ်သော ဆွမ်းကိုစားပါ။

၃။ ပံသုကူသင်္ကန်း ဝတ်ရုံလိုသူက ပံသုကူသင်္ကန်းကို ဝတ်ရုံ၍ ဒကာ၊ ဒကာမတို့ လှူသော သင်္ကန်းကို ဝတ်ရုံလိုသူက ဒကာ၊ ဒကာမတို့ လှူသော သင်္ကန်းကို ဝတ်ရုံပါ။

၄။ (ဆောင်း လေးလ၊ နွေ လေးလ) ရှစ်လတို့ပတ်လုံး သစ်ပင်ရင်း၌ နေလိုက နေကြရန် ငါ ခွင့်ပြုပြီး ဖြစ်သည်။

၅။ အစွန်း သုံးပါးမှ လွတ်သော သားငါးကို စားရန် ငါ ခွင့်ပြုထားပြီး ဖြစ်သည်ဟု မိန့်ကြားတော်မူခဲ့လေသည်။

(ဒေဝဒတ်၏ တောင်းဆိုချက်ငါးပါးနှင့် ဘုရားရှင်၏ ပြန်လည်မိန့်ကြားချက် ငါးပါးကို ပါရာဇိကပါဠိတော်၊ သံဃာဒိသေသကဏ္ဍ၊ သံဃဘေဒကသိက္ခာပုဒ် (ဝိ၊ ၁၊ ၂၆၃-၂၆၄) နှင့် စူဠဝါပါဠိတော်၊ သံဃ ဘေဒကက္ခန္ဓက၊ ပဥ္စဝတ္ထုယာစနကထာ (ဝိ၊ ၄၊ ၃၅၉) တို့၌ ကြည့်ရှုနိုင်၏။)

ဘုရားရှင်၏ ပြန်လည်မိန့်ကြားချက်များအနက် သက်သတ်လွတ်စားရန် တောင်းဆိုချက်မှတစ်ပါး ကျန်လေးချက်၌ နှစ်မျိုး မိန့်ကြားတော်မူသော်လည်း သက်သတ်လွတ်စားရန် အချက်၌ကား ယတိပြတ် တစ်ချက်တည်းပင် **'အစွန်းသုံးပါးမှ လွတ်သော သားငါးကိုစားရန် ငါ ခွင့်ပြုပြီးဖြစ်သည်'** ဟု မိန့်ကြားတော်မူချက်ကို လေးလေးနက်နက် စဉ်းစားကြည့်ပါက 'အသားစား ရှောင်ကြဉ်မှု' သည် ဘုရားရှင်၏ အလိုတော် မဟုတ်သောကြောင့် သက်သတ်လွတ်စားခြင်းသည် ဝိနည်းအကျင့်လည်း မဟုတ်ပါ။

**'အစွန်းသုံးပါးမှ လွတ်သော သားငါးကို စားရန် ခွင့်ပြုတော်မူခြင်း'** အကြောင်းရင်းက- နိဂဏ္ဌတက္ကတွန်း၏တပည့် သီဟစစ်သူကြီး

ဟာ မိမိမေးသော ပြဿနာအဖြေကို ဘုရားရှင်ထံမှ ကြားနာရသဖြင့် လွန်စွာသဘောကျသွားတယ်။ ဘုရားရှင်က တရားလည်း ဟောတော်မူတော့ သူဟာ တရားကိုလည်း သဘောပေါက်သွားပြီး ဘုရားရှင်၏ ဥပါသကာအဖြစ်ကို ခံယူတယ်။ ဘုရားရှင်ကို ဆွမ်းစားပင့်ပြီး အိမ်ပြန်သွားတယ်။

သီဟစစ်သူကြီးက ယောကျ်ားတစ်ယောက်ကို **ပဝတ္တမံသ** ခေါ်တဲ့ ဈေးမှာရောင်းသော သားငါးကို ဝယ်ခိုင်းပြီး မွန်မွန်မြတ်မြတ် စီမံချက်ပြုတ်ပြီးနောက် ဘုရားရှင်နဲ့တကွ သံဃာတော်များအား ဆွမ်းကပ်လှူတယ်။

မိမိတို့၏ ဒကာဖြစ်ဖူးသူက ဘုရားရှင်၏ တပည့်ဒကာ ဖြစ်သွားတာကို မကျေနပ်တဲ့ နိဂဏ္ဌတက္ကတွန်းတွေဟာ "ယနေ့ သီဟစစ်သူကြီးက ဆူဖြိုးတဲ့ သားကောင်တွေကို သတ်ပြီး ရဟန်းဂေါတမအား ဆွမ်းကျွေးနေတယ်။ ရဟန်းဂေါတမကလည်း သိလျက်နဲ့ မိမိကို ရည်ရွယ်၍ သတ်တဲ့ အသားကို စားတယ်။ မိမိကို အကြောင်းပြု၍ သတ်သော မကောင်းမှုကို ရတယ်" လို့ လှည့်လည်ကာ ဟစ်အော်ကြွေးကြော်ကြတယ်။

ယောကျ်ားတစ်ယောက်က ထိုနိဂဏ္ဌတို့၏ လှည့်လည်ဟစ်အော်ကြွေးကြော်ခြင်းအကြောင်းကို သီဟစစ်သူကြီးအား ပြောဆိုတယ်။

သီဟစစ်သူကြီးက-

"အမောင် ဒီလို အော်ဟစ်ကြွေးကြော်ကြတာ မသင့်လျော်ပါဘူး၊ သူတို့ဟာ ကြာမြင့်စွာသော နေ့ညဥ့်တို့ပတ်လုံး ဘုရားရှင်၏ ကျေးဇူးမဲ့ကို အလိုရှိကြတယ်၊ တရားတော်၏ ကျေးဇူးမဲ့ကို အလိုရှိကြတယ်၊ သံဃာတော်တွေ၏ ကျေးဇူးမဲ့ကို အလိုရှိကြတယ်။

သူတို့ဟာ ဘုရားရှင်ကို မဟုတ်မမှန်တဲ့ မုသားစကားဖြင့် စွပ်စွဲကြသည်မှာ မစဲနိုင်ကြပါဘူး။ ငါတို့ဟာ အသက်သေရမယ့် ဘေးအကြောင်းကြောင့်သော်မှပင် သေစေလိုသော စေတနာနဲ့ သူတစ်ပါးရဲ့ အသက်ကို မသတ်စေကုန်ရာပါဘူး” လို့ ပြန်ပြောလိုက်တယ်။

သီဟစစ်သူကြီးဟာ ကိုယ်တိုင် ဘုရားအမှူးရှိသော ရဟန်းသံဃာတော်များအား မွန်မြတ်သော ဆွမ်း ခဲဖွယ်ဘောဇဉ်တို့ဖြင့် ဆက်ကပ်လုပ်ကျွေးပြီးနောက် ဘုရားရှင်ထံမှ တရားတော်ကို နာယူတယ်၊ ဘုရားရှင်ဟာ တရားဟောတော်မူပြီး ကျောင်းတော်သို့ ပြန်လည်ရောက်တော်မူသည့်အခါ နိဂဏ္ဌတက္ကတွန်းတွေ၏ မဟုတ်မမှန် စွပ်စွဲမှုကို အကြောင်းပြု၍ သားငါးစားခြင်းနှင့်ပတ်သက်တဲ့ တားမြစ်ချက်နှင့် ခွင့်ပြုချက်ကို မိန့်တော်မူတယ်။

‘န ဘိက္ခဝေ ဇာနံ ဥဒ္ဒိဿကတံ မံသံ ပရိဘုဉ္ဇိတဗ္ဗံ၊ ယော ဘုဉ္ဇေယျ၊ အာပတ္တိ ဒုက္ကဋဿ။ အနုဇာနာမိ ဘိက္ခဝေ တိကောဋိပရိသုဒ္ဓံ မစ္ဆမံသံ အဒိဋ္ဌံ အသုတံ အပရိသင်္ကိတံ။’

(ဝိနည်းမဟာဝဂ္ဂပါဠိတော်၊ ဘေသဇ္ဇက္ခန္ဓက၊
သီဟသေနာပတိဝတ္ထု၊ ၃၃၄-၃၃၅)

‘ရဟန်းတို့ . . သိလျက်နှင့် မိမိကို ရည်စူး၍ သတ်ဖြတ်ပြုလုပ်အပ်သော အသားကို မစားအပ်၊ သိလျက်နှင့် ထိုအသားကို စားသော ရဟန်းအား ဒုက္ကဋ်အာပတ်အပြစ်သင့်စေ။

ရဟန်းတို့, ကိုယ်တိုင်လည်း မမြင်, ကိုယ်တိုင်လည်း မကြား, ယုံမှားခြင်းလည်း မရှိတဲ့ အစွန်းသုံးပါးမှ (လွတ်သော) စင်ကြယ်သော သားငါးကို စားရန် ငါဘုရား ခွင့်ပြုတော်မူ၏’ တဲ့။

**အစွန်းသုံးပါး၊ လွတ်သားငါး၊ စားကြွေး ပြစ်မရှိ။**

***'အစွန်းသုံးပါးမှ လွတ်သော သားငါး'*** ဟု ဆိုရာမှာ ရှေးဦးစွာ အစွန်းသုံးပါးမှ မလွတ်သော သားငါးကို သိဖို့ လိုပါသည်။ 'မိမိအတွက် ရည်စူး၍ သတ်အပ်သော သားငါး (ဥဒ္ဒိဿမံသ) ဟူသမျှသည် **အစွန်းမလွတ်သော သားငါးများ'** ဖြစ်ပါတယ်။ 'မြင်သား, ကြားသား ယုံမှားသား'တို့ ဖြစ်တယ်။

မြင်သားဆိုတာ မိမိအတွက် သတ်နေသည်ကို မြင်တဲ့ သားငါးကို ခေါ်တယ်။ အဲဒီသားငါးကို မစားကောင်းဘူး။ ပိုက်ကွန်၊ ကျော့ကွင်းစသည်တွေကို ဆွဲကိုင်လျက် ရွာမှ ထွက်သွားသူတွေကို မြင်လိုက်ရတယ်။ နောက်နေ့ကျတော့ အဲဒီရွာက မိမိအား သားငါးဟင်းများဖြင့် ကျွေးမွေးလာလျှင် ယမန်နေ့ မြင်ကွင်းကိုစွဲ၍ ယနေ့ ကျွေးမွေးသော သားငါးဟင်းများကို မစားကောင်းပါ။

ကြားသားဆိုတာက မိမိအတွက် သတ်နေသည်ကိုတော့ မမြင်ရပေမဲ့ သတ်နေသံကို ကြားရတဲ့ သားငါးကို ခေါ်တယ်၊ တောရွာတွေမှာ ဈေးမရှိတဲ့အတွက် အိမ်ရှိကြက်၊ ဘဲကိုပင် သတ်၍ဖြစ်စေ, ပိုက်ကွန်ဖြင့် သားငါးကို ဖမ်းကာ သတ်၍ဖြစ်စေ၊ ဟင်းလျာအဖြစ်နဲ့ ဧည့်သည် သို့မဟုတ် ရဟန်းသံဃာများအား ကျွေးတတ်ကြတယ်။ အဲဒီသားငါးများကိုလည်း မစားကောင်းဘူး။

ယုံမှားသားဆိုတာက မိမိအတွက် သတ်နေသည်ကို မမြင်ရ၊ မကြားရပေမဲ့ ဈေးမှာရောင်းတဲ့ သားငါးမျိုး မရနိုင်သော နေရာမှာ 'မိမိအား သားငါးဟင်းလျာများဖြင့် တည်ခင်းဧည့်ခံလာသောအခါ ငါ့အတွက် သက်သတ်ပြီး ချက်ပြုတ်ကျွေးမွေးလေသလား' ဟု ယုံမှား သံသယဖြစ်တဲ့ သားငါးကို ခေါ်တယ်။ အဲဒီသားငါးမျိုးကိုလည်း မစားကောင်းဘူး။

မြင်ခြင်း၊ ကြားခြင်း၊ ယုံမှားခြင်း- ဤသုံးပါးကို 'အစွန်းသုံးပါး' လို့ခေါ်တယ်။ အဲဒီအစွန်းသုံးပါးမှ လွတ်သော သားငါးကို စားကောင်းတယ်လို့ ဆိုလိုတယ်။

အစွန်းသုံးပါးမှ မလွတ်တဲ့ သားငါးကို ရဟန်းတော်များသာ မဟုတ်ဘဲ လူတွေလည်း မစားကောင်းပါဘူး။

**သီတင်းငါးရပ်၊ ရည်၍သတ်၊ မအပ် ထိုအသား။**
**မြင်ခြင်း၊ ကြားခြင်း၊ ယုံမှားခြင်း၊ ကင်းစေ စွန်းသုံးပါး။**

*(ဝိနယသံခိပ်၊ အကပ္ပိယအသားမျိုး။)*

**သားကြီး ၁၀ ပါး၊ မအပ်ငြား၊ ဘုရား တားမြစ်သည်။**

ထို့ပြင် ရဟန်းတော်များ မစားအပ်သော အသားကြီး ၁၀ မျိုးကိုလည်း ဘုရားရှင် ပညတ်တော်မူသေးတယ်။ အဲဒီ ၁၀ မျိုးကား- (၁) လူသား (၂) ခွေးသား (၃) မြင်းသား (၄) ဆင်သား (၅) ကျားသစ်သား၊ (၆) ကျားသား၊ (၇) ခြင်္သေ့သား (၈) ဝက်ဝံသား (၉) အောင်းသား [၃၄] (၁၀) မြွေသားတို့ ဖြစ်ပါတယ်။

လူတို့ ကပ်လျှသော ထိုအသားကြီး ၁၀-မျိုးကို ရဟန်းတော်များ စားမှုနှင့်ပတ်သက်၍ ဘုရားရှင် ပညတ်ချက်များကို ဝိနယပိဋက၊ မဟာဝါပါဠိတော် ဘေသဇ္ဇက္ခန္ဓက၊ မနုဿမံသပဋိက္ခေပကထာ စသည်တို့၌ လာရှိပါသည်။

ဤအသားကြီး ၁၀-မျိုးတို့တွင် လူသားကို ဇာတ်တူသား ဖြစ်သောကြောင့် လည်းကောင်း၊ ခွေးသား၊ မြွေသားတို့ကို စက်ဆုပ်ရွံ့ရှာ

[၃၄] တရစ္ဆ- အောင်း (မြန်မာပြန်)၊ Yak တိဗက်နွား (မြန်မာ-အင်္ဂလိပ် အဘိဓာန်)၊ Taraccha. m.a hyaena. hyena (Pali-English Dictionary) အာဖရိကတိုက်ရှိ တောခွေးတစ်မျိုး (ပိဋကတော်နှင့်စပ် မှတ်စုထွေလာ သီကောင်းစရာ၊ ၁၅၃။)

ဖွယ် ကောင်းသောကြောင့် လည်းကောင်း၊ ဆင်သား၊ မြင်းသားတို့ကို မင်း၏အသုံးအဆောင် ရတနာဖြစ်သောကြောင့် လည်းကောင်း၊ ကျန် ခြင်္သေ့ စသော သတ္တဝါငါးမျိုးတို့၏ အသားတို့ကိုကား တောနေရဟန်း များအား ဘေးရန်ပြုမည် စိုးသောကြောင့်လည်းကောင်း မစားရန် ပယ် မြစ်ကြောင်းကို ဝိနည်း မဟာဝါ အဋ္ဌကထာ၊ ဘေသဇ္ဇက္ခန္ဓက (ဝိ၊ ဋ္ဌ၊ ၃၊ ၃၇၆) ၌ လာရှိ၏။

ဤအသားကြီး ၁၀-မျိုးကို မစားရန် ပညတ်တော်မူချက်များက တော့ ရဟန်းတော်များနှင့်သာ ဆိုင်ပါတယ်။

**လူ, ခွေး, မြင်း, ဆင်, သစ်, ကျားလျှင်,**

**ခြင်္သေ့, ဝံ, အောင်း, မြွေ။**

**ရိုး၊ ရေ၊ သား၊ သွေး၊ အမွေးတို့ပါ၊ မသုံးရာ၊ ဆယ်ဖြာအမျိုးပေ။**

*(ပါတိမောက်ဘာသာဋီကာ၊ ၂၃။)*

စားကောင်းသည့် သားငါးနှင့် သားငါးမှတစ်ပါး အခြားအစား အစာများကို စားသုံးသည့်အခါ 'ဤစားဖွယ်များကို စားရခြင်းမှာ အသား အရေ လှပပြည့်ဖြိုးစေရန် မဟုတ်၊ ဓာတ်လေးပါးဖြင့် တည်ဆောက် ထားတဲ့ ဒီခန္ဓာကိုယ်ကြီး အရှည်တည်တံ့ပြီး ဘုရားရှင်ရဲ့ အဆုံးအမကို လိုက်နာကျင့်သုံးနိုင်ရန် ဖြစ်သည်'-ဟု ပစ္စဝေက္ခဏာ ဆင်ခြင်၍ လည်း ကောင်း၊ 'ဤစားဖွယ်တွေဟာ အဆင်း အနံ့ အရသာများနဲ့ ပြည့်စုံစေ ကာမူ ငါ၏ခံတွင်းသို့ ရောက်သည်နဲ့တစ်ပြိုင်နက် စက်ဆုပ်ရွံရှာဖွယ် ဖြစ်တော့သည်' ဟု အစာအာဟာရ၌ စက်ဆုပ်ရွံရှာဖွယ်အဖြစ် ဆင်ခြင် ၍လည်းကောင်း၊ 'ဤစားဖွယ်များအပေါ် ၌ ပူတယ်၊ အေးတယ်၊ ပျော့ တယ်၊ မာတယ်' စသည်ဖြင့် ဓာတ်ကမ္မဋ္ဌာန်းအဖြစ် ရှုဆင်ခြင်၍လည်း ကောင်း "ဝါးတယ် ဝါးတယ်, စားတယ်, စားတယ်, မျိုတယ် မျိုတယ်"

စသည်ဖြင့် သမ္မဇဉ်ပြု ရှုမှတ်၍ လည်းကောင်း စားရန် ဘုရားရှင် ညွှန်ကြားတော်မူခဲ့တယ်။

ထိုညွှန်ကြားတော်မူချက်နှင့်အညီ စားသုံးမှုက အသားစားတာ၊ အသားမစားတာ လိုရင်းမဟုတ်ဘဲ အစာအာဟာရအပေါ်၌ တွယ်တာ တပ်မက်တဲ့ ရသတဏှာ ခေါင်းပါးသွားဖို့သာ လိုရင်းဖြစ်သည်။

အင်္ဂုတ္တရနိကာယ်၊ စတုက္ကနိပါတ်၊ ဥရုဝေဠဝဂ်၊ အရိယဝံသသုတ် ၌လာသော အရိယဝံသတရား လေးပါးတွင် ပိဏ္ဍပါတသန္တောသ-ဆွမ်း ခဲဖွယ်ဘောဇဉ်၌ ရောင့်ရဲတင်းတိမ်ခြင်းနှင့် ပတ်သက်၍-

၁။ ဆိုးဆိုးကောင်းကောင်း၊ ကြမ်းကြမ်းနုနု၊ ရရသမျှသော ဆွမ်း ဘောဇဉ်တို့ဖြင့် တင်းတိမ်ရောင့်ရဲလျက် အခြား မွန်မြတ်သော ဆွမ်းဘောဇဉ်တို့ကို မတောင့်တရ၊ ရပြန်လျှင်လည်း မခံယူရ-ဟူသော '**ယထာလာဘ သန္တောသ**'၊

၂။ မိမိနှင့် ပင်ကိုအားဖြင့် မသင့်လျော်သော၊ သို့မဟုတ် ရောဂါ ဝေဒနာနှင့် မသင့်လျော်သော ဆွမ်း ခဲဖွယ်ဘောဇဉ်တို့ကို ရသောအခါ ယင်းတို့ကို သုံးဆောင်ခြင်းဖြင့် မိမိအဖို့ ချမ်းသာခြင်းကို မဖြစ်နိုင်မူ သဘာဂဖြစ်သော (မိမိနှင့် သဘောထားတူသော) ရဟန်းအားလှူ၍ ထိုရဟန်းထံမှ မိမိနှင့် သင့်လျော်မည့် ဆွမ်း ခဲဖွယ်ဘောဇဉ်တို့ကို သုံးဆောင်လျက် ရဟန်းတရားကို အားထုတ်ကျင့်ကြံခြင်းဖြင့် ရောင့်ရဲခြင်း-ဟူသော '**ယထာဗလသန္တောသ**'၊

၃။ မွန်မြတ်သော ဆွမ်း ခဲဖွယ်ဘောဇဉ်ကို ရသောအခါ ယင်းတို့ကို မိမိ မသုံးဆောင်သေးဘဲ မထေရ်ကြီး၊ သိက္ခာဝါကြီး၊ ဗဟုသုတရှိသော ရဟန်း၊ လာဘ်နည်းပါးသော ရဟန်း၊ ဂိလာန (သူနာ) ရဟန်းတို့အားလှူ၍ အကြွင်းအကျန်ကို

ဖြစ်စေ၊ တစ်ဖန် ဆွမ်းခံ၍ရသော ဆွမ်း စသည်ကိုဖြစ်စေ သုံးဆောင်၍ ရောင့်ရဲခြင်း-ဟူသော **'ယထာသာရုပ္ပသန္တောသ'** (အံ၊ ၁၊ ၃၃၆။ အံ၊ ၄၊ ၂၊ ၂၈၂။ ဒီ၊ ၄၊ ၁၊ ၁၈၃။)

ဤဆွမ်းနှင့်ပတ်သက်သော တင်းတိမ်ရောင့်ရဲခြင်းများသည်လည်း သက်သတ်လွတ်ကိုသာ စားသောသူ၏အဖို့ရာ သန္တုဋ္ဌိ မဖြစ်နိုင်ပုံကို ဖော်ညွှန်းလျက်ရှိ၏။

အချို့ သက်သတ်လွတ်စားသော ရဟန်းတို့သည် ဆွမ်းခံသွားရာတွင် လူတို့ကမသိ၍ သားငါးဟင်းများကို လောင်းလှူသောအခါ လက်ကာ၍ဖြစ်စေ၊ 'ငါက သားငါးကိုမစား၊ အသက်သတ်လွတ် စားတယ်' ဟု နှုတ်ဖြင့် ပြောဆို၍ဖြစ်စေ သိစေကြတယ်။ ယင်းသို့ပြုမူချက်များသည် ဘုရားရှင် ဟောတော်မူသော ပိဋကပါတသန္တောသ တရားတော်အရ သန္တုဋ္ဌိ (ရောင့်ရဲလွယ်မှု) မဖြစ်တော့ပါ။ လူတို့က အသားမပါသော အစားအစာများကို ရှာကြံပြုလုပ်၍ လောင်းလှူကြရတော့တယ်။ 'ဒီကိုယ်တော်က သားငါးကိုမစား၊ သက်သတ်လွတ်စားတယ်။ တကယ် အကျင့်ကောင်းတယ်' စသည်ဖြင့် ချီးမွမ်းစကား ပြောဆိုကုန်လျက် သားငါးစားသူ ရဟန်းတော်တွေကို အထင်သေးသွားတတ်ကြတယ်။

တချို့သော သက်သတ်လွတ်စားသူ လူတွေကပင် 'သက်သတ်လွတ် မစားလျှင် မေတ္တာ၊ ကရုဏာ မထားနိုင်ဘူး။ သီလ မစင်ကြယ်နိုင်ဘူး' ဟု ပြောတတ်ကြတယ်။ ကိုယ့်မှာဖြင့် တခြား သီလ၊ သမာဓိ၊ ပညာအကျင့် တစ်စုံတစ်ရာမရှိဘဲ သားငါးစားမှု ရှောင်ရုံမျှဖြင့် သီလ၊ သမာဓိ၊ ပညာအကျင့်ရှိသူ သူတော်ကောင်းတွေကို အထင်သေးတာ အလွန်ပင် ကြောက်စရာကောင်းလှသည်။ ဘုရားရှင်ကိုပင် စော်ကားရာ ရောက်တယ်။

## သက်သတ်လွတ်နှင့် အာမဂန္ဓသုတ်တော် [၃၅]

ဘုရားမပွင့်မီ အာမဂန္ဓအမည်ရှိသော ပုဏ္ဏားဟာ တပည့်ငါးရာနှင့်အတူ ရသေ့ဝတ်ကြ၍ ဟိမဝန္တာသို့သွားပြီး တောင်ကြားထဲမှာ သင်္ခမ်းကျောင်း ဆောက်လုပ်နေထိုင်ကြသည်။ သူတို့ဟာ တောသစ်မြစ်သစ်သီးကိုသာ စားသုံးနေကြတယ်။ တစ်ခါတစ်ရံတောင်မှ သားငါးကို မစားကြဘူး။ ထိုရသေ့တွေဟာ သစ်မြစ်သစ်သီးများကိုလည်း ယခုခေတ် သက်သတ်လွတ်လို ဆီ၊ ဆား၊ ငရုတ်၊ ကြက်သွန်များဖြင့် ချက်တာ မဟုတ်ဘဲ အစိမ်းလိုက်တိုင်းဖြစ်စေ၊ ပြုတ်၍ဖြစ်စေသာ စားကြရတယ်။ နှစ်ရှည်လများ ချဉ်ဆား လုံးဝမပါဘဲ စားလာကြရတော့ ခါတ်လေးပါး မညီမျှ အာဟာရသပ္ပာယ မဖြစ်ကြရကား သူတို့မှာ ဖျော့တော့သော အသားဝါရောဂါ ဖြစ်လာခဲ့ကြတယ်။

အဲဒါနဲ့ သူတို့ဟာ ချဉ်ဆား စသည်ကို မှီဝဲရန်အတွက် တိုင်းစွန်ပြည်ဖျား ပစ္စန္တရာဇ်ရွာတစ်ရွာသို့ ရောက်လာကြတယ်။ သာသနာပအခါမို့ ရွာသူရွာသားတွေက ရသေ့များကို ကြည်ညိုလှပြီး ပင့်ဖိတ်ကာ လေးလပတ်လုံး ဆွမ်းဖြင့် လုပ်ကျွေးခဲ့ကြတယ်။ ရသေ့တွေလည်း ချဉ်ဆား မှီဝဲကြရတဲ့အခါ အစာအာဟာရ မျှတမှုကိုရရှိခဲ့ကြတယ်။ သူတို့ရဲ့ အသားဝါရောဂါလည်း ပျောက်ကင်းသွားကြလေတော့ ဟိမဝန္တာတောင်ကျောင်းသို့ ပြန်သွားကြတယ်။ လူတွေကလည်း ဆွမ်း၊ ဆန် စသည်များကို လှူလိုက်ခဲ့ကြသေးတယ်။ ရသေ့တွေဟာ နှစ်စဉ်နှစ်တိုင်း ထိုရွာသို့ လာကြပြီး မိုးလပတ်လုံး နေခဲ့ကြတယ်။ ရွာသူရွာသားတွေကလည်း ထိုရသေ့တွေကို ဝမ်းမြောက်ဝမ်းသာ လုပ်ကျွေးပြုစုခဲ့ကြတယ်။

[၃၅] ခုဒ္ဒကနိကာယ်၊ သုတ္တနိပါတ်ပါဠိတော်၊ အာမဂန္ဓသုတ် (ခု၊ ၁၊ ၃၁၅-၃၁၇)၊ သုတ္တနိပါတဋ္ဌကထာ၊ အာမဂန္ဓသုတ်အဖွင့် (သုတ္တနိ၊ ဋ္ဌ၊ ၁၊ ၂၉၇-၃၀၉။)

## ဘုရားပွင့်ပြီ ထူးခြားသည်။

ရသေ့တွေက နှစ်စဉ် တောနှင့်ရွာ ကူးလူးဆက်ဆံနေကြစဉ်မှာပင် ဘုရားရှင် ပွင့်တော်မူလာတယ်။ ဘုရားရှင်ဟာ သာဝတ္ထိမင်းနေပြည်မှာ သီတင်းသုံးနေတော်မူစဉ် ဉာဏ်တော်ဖြင့် 'ငါသည် ဘယ်သတ္တဝါကို ချွေချွတ်ရပါမည်နည်း' ဟု ကြည့်ရှုတော်မူသောအခါ ရသေ့တွေရဲ့ အရဟတ္တဖိုလ်ရမည့် ဥပနိဿယပစ္စည်း အားကြီးသော အထောက်အပံ့နဲ့ ပြည့်စုံတာကို မြင်တော်မူတော့ ရဟန်းသံဃာများ ခြံရံလျက် ရသေ့တွေမလာမီ ထိုရွာသို့ ကြွတော်မူတယ်၊ လူတွေက ဘုရားရှင်ကို ဖူးမြင်ကြရ၍ အလှူကြီးပေးကြတယ်။ ဘုရားရှင်က သူတို့အား တရားဟောတော်မူသောအခါ အချို့သူတွေက သောတာပန်၊ အချို့က သကဒါဂါမ်, အချို့ အနာဂါမ်ဖြစ်ကြပြီး, အချို့က ရဟန်းပြုကြကာ ရဟန္တာအထိ ဆိုက်ရောက်သွားခဲ့ကြတယ်၊ ဘုရားရှင်က တရားဟောပြီးတာနဲ့ ရဟန်းသံဃာများနှင့်အတူ သာဝတ္ထိသို့ ပြန်ကြွတော်မူတယ်။

ဘုရားရှင် ပြန်ကြွသွားပြီးနောက်မှာ ရသေ့တွေဟာ ထိုရွာသို့ ရောက်လာကြတယ်၊ လူတွေက ရသေ့တွေကို မြင်တဲ့အခါ ရှေးကလို အုတ်အုတ်ကျက်ကျက် မလုပ်ကြတော့ဘူး၊ ရသေ့တွေက ရှေးကနှင့် မတူ ထူးခြားနေတော့ ရွာသူရွာသားတွေကို "ဘယ်လိုဘာလဲ၊ ရွာသူရွာသားတွေဟာ ရှေးကနဲ့ မတူကြပါလား? ဒီရွာကို မင်းဒဏ်ထား နှိပ်စက်ခံရလို့လား? သို့မဟုတ် ငတ်မွတ်ခေါင်းပါးဘေးသင့်လို့လား? သို့မဟုတ် ငါတို့ထက် သီလ စတဲ့ဂုဏ် ပိုမိုပြည့်စုံတဲ့ ရဟန်းတစ်ပါးပါး ဒီရွာကို ကြွလာခဲ့လို့လား?" လို့ မေးတယ်။

ရွာသူရွာသားတွေက "အရှင်ဘုရားတို့, တပည့်တော်တို့ရွာ မင်းဘေးမင်းဒဏ်လည်း မသင့်ပါ၊ ငတ်မွတ်ခေါင်းပါးခြင်းဘေးလည်း မသင့်ပါ၊ အမှန်ကတော့ သစ္စာလေးအင် သိမြင်တော်မူတဲ့ ဘုရားရှင်သည်

လောကဌ် ပွင့်ထွန်းတော်မူလာပါပြီ။ လူအများရဲ့ အကျိုးစီးပွားအလို့ ငှာ တရားဟောတော်မူသော ထိုဘုရားရှင်ဟာ ဒီရွာသို့ ကြွလာတော်မူ ခဲ့ပါတယ်ဘုရား” ဟု ပြန်လည်ဖြေကြားကြတယ်။

‘ဘုရား ပွင့်တော်မူပြီ’ဟူသော အဖြေစကားကို ကြားရတော့ အာမဂန္ဓရသေ့က “သူကြွယ်တို့ ဘုရားဟူ၍ သင်တို့ ပြောကြသလား?” လို့ သုံးကြိမ်တိုင်တိုင် မေးတယ်။ ရွာသူရွာသားတွေကလည်း “မှန်ပါ၊ ဘုရားဟူ၍ တပည့်တော်တို့ ပြောကြပါတယ်ဘုရား” လို့ သုံးကြိမ်တိုင် တိုင်ပင် ပြန်လည်ဖြေကြတယ်။

အာမဂန္ဓရသေ့က “လောကမှာ ဒီဘုရားဆိုတဲ့ အသံကို ကြားရ ဖို့တောင်မှ ခဲယဉ်းပါတယ်” လို့ ဝမ်းမြောက်စကား ပြောဆိုပြီးလျှင် “နေပါဦး ဒကာတို့၊ ထိုဘုရားက အညှီအဟောက် (အာမဂန္ဓ)ကို ဘုဉ်း ပေးသလား။ မပေးဘူးလား?” လို့ ထပ်မေးတယ်။

ဒီအမေးကို နားမလည်တဲ့ ရွာသူရွာသားတွေက “အရှင်ဘုရား အညှီအဟောက်ဆိုတာ ဘာလဲဘုရား?” လို့ ပြန်မေးကြတယ်။

အာမဂန္ဓရသေ့က “သူကြွယ်တို့၊ အညှီအဟောက်ဆိုတာ ငါးနဲ့ အသားကို ခေါ်တယ်” လို့ ပြန်ဖြေတယ်။

ရွာသူရွာသားတွေက “ဘုရားရှင်သည် သားငါးကို ဘုဉ်းပေးပါ တယ်ဘုရား” လို့ ဖြေဆိုသည်ကို ကြားလိုက်ရတဲ့ ရသေ့ဟာ ‘ဒီလို သား ငါး စားတယ်ဆိုရင် ဘုရား မဟုတ်နိုင်ဘူး” လို့ စိတ်နှလုံး မသာမယာ ဖြစ်သွားတယ်။ ဘုရားရှင်အပေါ် အထင်သေးသွားတယ်။

အာမဂန္ဓရသေ့ဟာ တစ်ဖန် စဉ်းစားပြန်တယ်— “ဘုရားပွင့် ပေါ်ဖို့ဆိုတာ ခဲယဉ်းလှတယ်။ သွား၍ ဘုရားရှင်ကို ဖူးမြော်မေးမြန်း ကြည့်မှ သိရလိမ့်မယ်” ဟု တွေးကာ ခရီးလမ်းမေး၍ ဘုရားရှင်ထံသို့ လိုက်သွားကြတယ်။

ရသေ့တွေဟာ ဘုရားရှင်ထံတော်သို့ ရောက်ကြသော်လည်း စကားမပြော၊ ရှိမခိုးကြဘဲ ထိုင်နေကြတယ်၊ သူတို့က သားငါးမစားဘူး၊ ဘုရားရှင်က သားငါးစားတယ်ဆိုတော့ သူတို့လောက် မမြတ်ဘူးလို့ ယူဆနေကြတယ်။ သက်သတ်လွတ်စားမှုကို စွဲ၍ မာန်ထောင်နေကြတာပဲ။

ဘုရားရှင်က "ရသေ့တို့ ကျန်းမာကြရဲ့လား?" စသည်ဖြင့် နှုတ်ခွန်းဆက်စကားဖြင့် မေးတော်မူတော့မှ ရသေ့တွေဟာ "ကျန်းမာကြပါတယ်၊ အရှင်ဂေါတမ" စသည်ဖြင့် ပြန်လည်ဖြေကြားကြတယ်။

ထို့နောက်မှာ အာမဂန္ဓရသေ့က "အရှင်ဂေါတမ. . . အညှီအဟောက်ကို စားပါသလော? မစားပါသလော?" လို့ ဘုရားရှင်ကို မေးတယ်။

ဘုရားရှင်က "အို ပုဏ္ဏား၊ အညှီအဟောက်ဆိုတာ ဘာလဲ (ဘာကို ခေါ်တာလဲ?)" လို့ပြန်မေးတယ်။ ဒီနေရာမှာ ဘုရားရှင်က ရသေ့တွေရဲ့အယူကို မသိလို့ မေးတော်မူတာ မဟုတ်ဘူး။ တရားဟောတော်မူချင်လို့ မေးတော်မူတာ ဖြစ်တယ်။ ရသေ့က "အညှီအဟောက်ဆိုတာ သားငါးကို ခေါ်ပါတယ်" လို့ ပြန်ဖြေတယ်။

ဘုရားရှင်က "အို ပုဏ္ဏား, ငါးသားများဟာ အညှီအဟောက် မဟုတ်ဘူး။ အမှန်တော့ အညှီအဟောက်ဆိုတာ အလုံးစုံသော ကိလေသာတွေနဲ့ ယုတ်ညံ့သော အကုသိုလ်တရားတွေကို ခေါ်တာ" လို့မိန့်တော်မူပြီး "အို ပုဏ္ဏား၊ ယခုအခါ သင်သည်သာ အညှီအဟောက်ကို မေးသည် မဟုတ်သေး။ ရှေးကလည်း တိဿအမည်ရှိ ပုဏ္ဏားက ကဿပဘုရားကို မေးခဲ့ဖူးလေပြီ" လို့ မိန့်တော်မူတယ်။

လွန်လေပြီးသောအခါက ကဿပဘုရားအလောင်းတော်က ရှစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း ပါရမီဖြည့်ခဲ့ပြီး နောက်ဆုံးဘဝဝယ် ဗာရာ

ဇာသီပြည်၌ ဖြဟ္မဒတ်ပုဏ္ဏားနှင့် ဓနဝတီပုဏ္ဏေးမတို့မှ မွေးဖွားတော်မူခဲ့တယ်။ တိဿအမည်ရှိ အဂ္ဂသာဝကအလောင်းကတော့ ပုရောဟိတ်ပုဏ္ဏားနှင့် ဇနီးပုဏ္ဏေးမတို့မှ မွေးဖွားခဲ့တယ်။ သူတို့နှစ်ဦးဟာ အဆွေခင်ပွန်းတွေ ဖြစ်ကြပြီး အရွယ်ရောက်သောအခါ တိဿက တောထွက်ရသေ့ဝတ်၍ တောင်ခြေတစ်ခုမှာ သခ်မ်းကျောင်း ဆောက်လုပ်ပြီးနေတယ်။

ဘုရားအလောင်းကတော့ ပြာသာဒ်ပေါ်မှာနေရင်း အာနပါနကမ္မဋ္ဌာန်းရှုမှတ်၍ ဈာန်အဘိညာဉ်တွေကို ဖြစ်စေကာ ပြာသာဒ်ဖြင့် ဗောဓိမဏ္ဍိုင်သို့ ကြွတော်မူပြီးမှ "ပြာသာဒ်သည် မူလ တည်နေရာ၌ တည်စေသတည်း" လို့ အဓိဋ္ဌာန်ပြုတယ်၊ ပြာသာဒ်ဟာ အသက်ရှိတဲ့ သတ္တဝါကဲ့သို့ မူလနေရာမှာပင် ပြန်ပြီးတည်နေတယ်။ ထို့နောက် ရဟန်းပြုကာ ခုနစ်ရက် တရားအားထုတ်တော့ ဘုရားဖြစ်တော်မူတယ်။

တိဿရသေ့ဟာ ဇာရာဇာသီပြည်သားတစ်ဦးရဲ့ သတင်းပေးချက်အရ ကဿပဘုရားရှင် ပွင့်တော်မူတာကို သိသွားတယ်၊ ဘုရားဆိုတဲ့ ကြားရခဲတဲ့စကားကို ကြားရ၍ နှစ်သက်ဝမ်းသာမှု ဖြစ်လျက်နဲ့ပင် မေးခွန်းတစ်ခုကို ထိုဇာရာဇာသီပြည်သားအား မေးတယ်—

"ကဿပဘုရားရှင်ဟာ အညှီအဟောက် ဘုဉ်းပေးသလား၊ မဘုဉ်းပေးဘူးလား ?" တဲ့။

"အရှင်ဘုရား အညှီအဟောက်ဆိုတာ ဘာလဲဘုရား" လို့ ပြန်မေးတော့ —

"ဒကာ. . . အညှီအဟောက်ဆိုတာ သားငါးကို ခေါ်တယ်"

"ဘုရားရှင်သည် သားငါးကို ဘုဉ်းပေးပါတယ်ဘုရား" လို့ ပြောလိုက်တော့ တိဿရသေ့ဟာ နှလုံးမသာမယာဖြစ်ပြီး "ငါကိုယ်တိုင်သွားပြီးမေးမယ်၊ အညှီအဟောက်ကို စားတယ်ဆိုရင် အညှီအဟောက်

စားခြင်းဟာ အရှင်ဘုရားတို့ ဇာတ်၊ အမျိုး၊ အနွယ်အား မလျော်ပတ်ပါဘုရား" လို့တားမြစ်ပြီး ထိုဘုရားရှင်ထံမှာ ရဟန်းဝတ်၍ ဘဝမှ လွတ်မြောက်ကြောင်း တရားကို အားထုတ်မယ်လို့ ကြံစည်ကာ ကဿပဘုရားရှင်ထံတော်သို့ သွားတယ်။

ထိုအချိန်မှာ ဘုရားရှင်က တရားဟောဖို့ရာ တရားဟောပလ္လင်တော်ဝယ် ထိုင်နေတော်မူဆဲ ဖြစ်တယ်။ ရသေ့ဟာ ဘုရားရှင်ထံ ချဉ်းကပ်ပြီး ရှိမခိုးဘဲ ဆိတ်ဆိတ်သာ ထိုင်နေတယ်။

ဘုရားရှင်က စတင်ကာ "တိဿ. . ကျန်းမာပါရဲ့လား" စသည်ဖြင့် နှုတ်ဆက်တော့မှ တိဿရသေ့ဟာ "ကျန်းမာပါတယ်, အရှင်ကဿပ" စသည်ဖြင့် ပြန်လည်နှုတ်ဆက်ပြီး ပြဿနာကို မေးတယ်။

"အရှင်ကဿပ၊ အညှီအဟောက်ကို ဘုဉ်းပေးပါသလော? မဘုဉ်းပေးပါသလော"တဲ့။

ဘုရားရှင်က "တိဿပုဏ္ဏား၊ ငါသည် အညှီအဟောက်ကို မစားဘူး"လို့ပြန်ဖြေတော့ တိဿရသေ့ဟာ သူ လိုချင်တဲ့အဖြေ ရပြီထင်ကာ "သာဓု သာဓု အရှင်ကဿပ, အသေကောင်ကို မစားတာ ကောင်းသည်ကို ပြုသည် မည်ပါတယ်။ အရှင့်ရဲ့ဇာတ်, အမျိုး, အနွယ်အားလည်း လျော်ပတ်ပါတယ်" လို့ ပြောကြားတယ်။

ကဿပဘုရားရှင်ဟာ "ငါက ကိလေသာတွေကို ရည်ရွယ်ပြီး အညှီအဟောက်ကို မစားဘူး"လို့ ပြောတာ, တိဿရသေ့က သားငါးကို မစားဘူး,လို့ ထင်သွားတယ်။ အကယ်၍ ငါ နက်ဖြန်နံနက် ဆွမ်းခံမကြွဘဲ ကိကီမင်းကြီး နန်းတော်မှပို့တဲ့ ဆွမ်းကို ဘုဉ်းပေးရလျှင် ကောင်းမယ်။ အဲဒီလိုဘုဉ်းပေးတော့ အညှီအဟောက်နဲ့ပတ်သက်တဲ့ ပြဿနာစကား ဖြစ်ပေါ် လာလိမ့်မယ်။ ထိုအခါကျမှ တိဿပုဏ္ဏားကို တရား

ဟော၍ အညှီအဟောက်အကြောင်း သိစေမယ်” လို့ စဉ်းစားဆင်ခြင်တော်မူတယ်။

နောက်နေ့ကျတော့ ဘုရားရှင်ဟာ ဆွမ်းခံကြွတော်မမူဘဲ ဘုရားနေရာတော်မှာ ထိုင်နေတော်မူတယ်။ တိဿရသေ့ကလည်း သစ်ဥ၊ သစ်မြစ်၊ သစ်ရွက်တွေကို ပြုတ်စားပြီး ဘုရားရှင်၏အနီးမှာ သွားထိုင်နေတယ်။ ကိုကီမင်းကြီးက ဘုရားရှင် ဆွမ်းခံမကြွတာကို သိရတော့ အမျိုးမျိုးသော အရသာရှိတဲ့အသားနဲ့ အထူးချက်ပြုတ်စီမံထားသော ဆွမ်းဘောဇဉ်ကို ဘုရားရှင်ထံ ပို့စေတယ်။

အမတ်တွေဟာ ဘုရားရှင်အား လျှောက်ထား၍ ဆွမ်းဘောဇဉ်ကို ရေစက်ချ လှူဒါန်းပြီး အမျိုးမျိုးသောအသားနဲ့ ပြုတ်ထားတဲ့ ယာဂုဆန်ပြုတ်ကို ပထမ ကပ်တယ်။ တိဿရသေ့ဟာ “ဘုရားရှင်က အသားယာဂုဆန်ပြုတ်ကို ဘုဉ်းပေးမလား၊ မဘုဉ်းပေးဘူးလား?လို့ စောင့်ကြည့်နေတယ်။

ဘုရားရှင်က တိဿရသေ့ ကြည့်နေစဉ်ပင် ယာဂုသောက်လျက် အသားတုံးကို ဘုဉ်းပေးလိုက်တယ်။ ရသေ့ဟာ ဘုရားရှင်အသားတုံးဘုဉ်းပေးတာကို မြင်ရော စိတ်ဆိုးသွားတယ်။ အမတ်တွေက ယာဂုဘုဉ်းပေးပြီးသော ဘုရားရှင်အား အထူးထူးသော ရသာစုံတဲ့ ငှက်သားပွဲမ်း ဆွမ်းဘောဇဉ်ကို ဆက်ကပ်ကြပြန်တယ်။ ဘုရားရှင်က ထိုဆွမ်းဘောဇဉ်ကိုလည်း ဘုဉ်းပေးတော်မူတယ်။

ရသေ့ဟာ နှစ်ကြိမ်မြောက် အသားကို ဘုဉ်းပေးတာ မြင်တော့ အလွန်အမင်း စိတ်ဆိုးသွားပြီး “သားငါးကို စားပါလျက်နဲ့ ငါ မစားဘူး” လို့ ပြောတယ်။

## မုသားစကား စွပ်စွဲခြင်း

ဘုရားရှင် ဆွမ်းဘုဉ်းပေးပြီး လက်၊ ခြေတွေကို ဆေးတော်မူပြီး နောက် ထိုင်နေတော်မူတဲ့အခါ ရသေ့ဟာ အနားကပ်သွားကာ —

"အရှင်ကဿပ၊ အညှီအဟောက်သည် ငါ့အား မအပ်-ဟု အရှင် ဘုရား ဆိုသည် မဟုတ်ပါလော။ သို့ပါလျက် ကောင်းစွာစီရင်ထားအပ် သော ငှက်သားတို့နှင့် သလေးဆွမ်းကို စားဘိ၏။ သင်သည် မုသား စကားပြောတယ်။ ဒီလို မုသားစကားပြောတာဟာ ပညာရှိတွေရဲ့ကိစ္စ မဟုတ်ဘူး။ မုသားစကားပြောခြင်းကို ဘုရားရှင်တို့ ကဲ့ရဲ့အပ်ပါတယ်။ တောင်ခြေမှာ တောသစ်မြစ် သစ်သီး စသည်တို့ဖြင့် မျှတနေကြသည့် ရသေ့တွေတောင်မှ မုသားစကား မပြောကြပါဘူး"လို့ ဘုရားရှင်ကို နှိမ်ချပြီး ရသေ့တွေကို ဂုဏ်တင်ကာ ချီးကျူးစကားပြောတယ်။

## စဉ်းစားကြံဆ မြင်မှန်ရ

ရသေ့ဟာ မုသားစကားဖြင့် စွပ်စွဲပြီးနောက် ကဿပဘုရားရှင် ၏ ခြေဖျားတော်မှ ဆံဖျားတော်တိုင်အောင် တစ်ကိုယ်လုံးကို သိမ်းကျုံး ကြည့်တဲ့အခါ သုံးဆယ့်နှစ်ပါးသော ယောကျ်ားမြတ်တို့၏ လက္ခဏာ တော်ကြီး၊ ရှစ်ဆယ်သော လက္ခဏာတော်ငယ် စသည်တို့နှင့် ပြည့်စုံနေ တာကို မြင်ရသောကြောင့် 'ဒီလို ယောကျ်ားမြတ်တို့၏ လက္ခဏာတွေ ဖြင့် တန်ဆာဆင်အပ်တဲ့ ခန္ဓာကိုယ်ရှိသူဟာ ဘယ်တော့မှ မုသားမပြော ဘူး။ မှန်ကန်တဲ့ သစ္စာစကားရဲ့ အကျိုးဆက်ကြောင့်သာ မျက်မှောင် နှစ်ခုရဲ့အကြား ဖြူဆွတ်သော ဥဏ္ဏာလုံမွေးရှင်တော်၊ မွေးညင်းတွင်း တစ်တွင်း တစ်တွင်း၌ တစ်ပင် တစ်ပင်သော အမွေးတွေ ပေါက်လာကြ တယ်။ အတိတ်ဘဝတွေမှာတောင် မုသားစကား မပြောခဲ့တဲ့ပုဂ္ဂိုလ်က ယခု ဘုရားဖြစ်တဲ့ဘဝမှာ ဘယ်မုသားပြောတော့မှာလဲ။ အမှန်က ငါ

မေးတဲ့ အညီအဟောက်က တစ်မျိုး၊ ဘုရားရှင်အလို အညီအဟောက်က တစ်မျိုး ဖြစ်လိမ့်မယ်' လို့ တွေးတောကာ "အရှင်ကဿပ၊ အရှင်ဘုရားအား ဤအကြောင်းကို မေးပါ၏။ အရှင်ဘုရားပြောသော အညီအဟောက်သည် အဘယ်မျှ အပြားရှိပါသနည်း?" မေးလေ၏။

ဘုရားရှင်က "တိဿရသေ့, သူ့အသတ်သတ်ခြင်း, တုတ် စသည်ဖြင့် နှိပ်စက်ခြင်း, လက် ခြေ စသည်ကို ဖြတ်ခြင်း, ကြိုး စသည်ဖြင့် ချည်နှောင်ခြင်း, သူတစ်ပါး၏ဥစ္စာကို ခိုးခြင်း, မုသားပြောဆိုခြင်း, စဉ်းလဲခြင်း, လှည့်ပတ်ခြင်း, အကျိုးမရှိသော ကျမ်းဂန်တို့ကို သင်ယူခြင်း, သူတစ်ပါးသားမယားကို ပေါင်းဖော်မှီဝဲခြင်း- ဤသည်ကား အညီအဟောက်တည်း၊ အသားဟူသော ဘောဇဉ်သည် အညီအဟောက် မဟုတ်။

ဤလောကဌ် အကြင်သူတို့သည် ကာမဂုဏ်တို့၌ မစောင့်စည်းကုန်၊ ရသာရုံတို့၌ မက်မောကုန်၏, မစင်ကြယ်သော၊ မှားသော အသက်မွေးခြင်း ရှိကုန်၏, ကံ၊ ကံ၏အကျိုးကို မယုံကြည်ခြင်း၊ နတ္ထိကဝါဒ အယူရှိကုန်၏။ မညီညွတ်သော ကာယကံမှု စသည်နှင့် ပြည့်စုံကုန်၏, သိစေနိုင်ခဲကုန်၏။ ထိုသူတို့၏ ဤကာမဂုဏ်တို့၌ မစောင့်စည်းမှု စသည်ပင် အညီအဟောက်တည်း။ အသားဟူသော ဘောဇဉ်သည် အညီအဟောက် မဟုတ်။

အကြင်သူတို့သည် ခေါင်းပါးသော အတ္တကိလမထ အကျင့်ရှိကုန်၏။ ကြမ်းတမ်း (ဆိုဆုံးမခက်) ကုန်၏။ သူတစ်ပါး၏ ကျောက်ကုန်းသားကို စားသကဲ့သို့ ရှေ့တွင်ချီးမွမ်း၍ မျက်ကွယ်၌ ကဲ့ရဲ့ကုန်၏။ အဆွေခင်ပွန်းတို့ကို ပြစ်မှားကုန်၏, သနားခြင်း ကင်းကုန်၏။ (သနားခြင်းကင်းကုန်သည် ဖြစ်၍ သတ္တဝါတို့၏အကျိုးမဲ့ကို အလိုရှိကုန်၏။) အလွန်မာန်မူကုန်၏။ (မိမိကိုယ်ကို မြတ်သည်ထင်လျက် သူတစ်ပါးတို့

ကို အထင်သေးကုန်၏။), မပေးတတ်သော အလေ့ရှိကုန်၏, တစ်စုံတစ်ယောက်အား အနည်းငယ်မျှပင် မပေးလှူကုန်။ ထိုသူတို့၏ ဤခေါင်းပါးသောအကျင့် စသည်ပင် အညှီအဟောက်တည်း, အသားဟူသော ဘောဇဉ်သည် အညှီအဟောက် မဟုတ်။

အမျက်ထွက်ခြင်း, မာန်ယစ်ခြင်း, ခက်ထန်ခြင်း, ဆန့်ကျင်ဘက်ပြုလုပ်ခြင်း, လှည့်ပတ်ခြင်း, ငြူစူခြင်း, ဝါကြွားပလွှား၍ ပြောဆိုခြင်း, အလွန်မာန်မူခြင်း, သူယုတ်မာတို့နှင့် ပေါင်းသင်းဆက်ဆံခြင်း- ဤသည်ပင် အညှီအဟောက်တည်း၊ အသားဟူသော ဘောဇဉ်သည် အညှီအဟောက် မဟုတ်။

ဤလောက၌ အကြင်သူယုတ်မာတို့သည် မကောင်းသော အလေ့ ရှိကုန်၏။ ကြွေးမြီကိုယူ၍ မပေးဆပ်၊ ဖျက်ဆီးတတ်သည့်ပြင် ကုန်းချော(ဂုံးချော)တတ်ကုန်၏, ဤလောက၌ တံစိုးစားကာ ကောက်ကျစ်စဉ်းလဲသဖြင့် တရားစီရင်တတ်ကုန်၏, သီလရှိယောင် အတုဆောင်တတ်ကုန်၏, အမိ အဖ စသည်အပေါ်၌ ကြမ်းသောအမှုကို ပြုကုန်၏, ထိုသူတို့၏ ဤမကောင်းသောအလေ့ စသည်ပင် အညှီအဟောက်တည်း, အသားဟူသော ဘောဇဉ်သည် အညှီအဟောက် မဟုတ်-ဟူ၍ လည်းကောင်း။

"ငါး အမဲတို့ကို မစားသောအဖြစ်သည် လည်းကောင်း, အဝတ်မဝတ်ခြင်းသည် လည်းကောင်း, ဦးပြည်းခေါင်းတုံးရိတ်ခြင်းသည် လည်းကောင်း (ခေါင်းတုံးရိတ်ကာမျှသည် လည်းကောင်း), ဆံကျစ်ထုံးခြင်း, မြူအညစ်အကြေး ဆောင်ခြင်းသည် လည်းကောင်း, ရသေ့ ပရိက္ခရာ သစ်နက်ရေရေတို့သည် လည်းကောင်း, မီးကို ပူဇော်ခြင်း, မီးကို လုပ်ကျွေးခြင်းတို့သည် လည်းကောင်း ယုံမှားခြင်းမှ မကူးမြောက်သေး (မလွန်မြောက်သေး) သော သတ္တဝါတို့ကို မစင်ကြယ်စေနိုင်ကုန်။

လောကဥ္စ အကြွင်သို့ သဘောရှိကုန်သော၊ မသေရန် တောင့်တလျက် ကိုယ်ကို များစွာပူပန်စေတတ်သော အကျင့်တို့သည် လည်းကောင်း, ဗေဒင်တို့သည် လည်းကောင်း, ဟုံးပူဇော်သော အကျင့်တို့သည် လည်းကောင်း, ယဇ်ပူဇော်ခြင်းသည် လည်းကောင်း၊ နွေဥတု၌ အပူခံခြင်း (ဂိမှေအာတပဋ္ဌာန သေဝနာ), မိုးဥတု၌ သစ်ပင်ရင်းမှာ နေခြင်း (ဝဿေ ရုက္ခမူလ သေဝနာ)၊ ဆောင်းဥတု၌ ချမ်းအေးသောရေသို့ သက်ဆင်းခြင်း (ဟေမန္တေ ဇလပ္ပဝေသ သေဝနာ) စသော ဥတုကို မှီဝဲခြင်းတို့သည် လည်းကောင်း ယုံမှားခြင်းမှ မကူးမြောက်သေးသော သတ္တဝါတို့ကို မစင်ကြယ်စေနိုင်ကုန်။

အကြွင်သူသည် ဣန္ဒြေခြောက်ပါးတို့၌ လုံခြုံသည်ဖြစ်၍ ဉာတပရိညာဖြင့် ဣန္ဒြေတို့ကိုသိကာ ဣန္ဒြေတို့ကို ထင်ရှားအောင်ပြုလျက် ကျင့်၏။ သစ္စာလေးပါးတရား၌ တည်၏။ ဖြောင့်မတ်သောသူ၊ နူးညံ့သောသူ၏အဖြစ်၌ မွေ့လျော်၏။ ရာဂ စသော ကပ်ငြိခြင်းကို လွန်မြောက်၏။ ဆင်းရဲအားလုံး၏အကြောင်းကို ပယ်၏။ ခိုင်မြဲသော ပညာနှင့် ပြည့်စုံသော ထိုသူသည် မြင်အပ်၊ ကြားအပ်သော အာရုံတို့၌ ကိလေသာတို့ဖြင့် မလိမ်းကျံတော့ပေ' ဟူ၍ လည်းကောင်း ဟောတော်မူတယ်။

(ခုဒ္ဒကနိကာယ်၊ သုတ္တနိပါက်ပါဠိတော်၊ အာမဂန္ဓသုတ်၊ ၃၁၅-၃၁၇။ မြန်မာပြန်၊ ၂၉၇-၂၉၉။)

ဤကဲ့သို့ ကဿပဘုရားရှင်က အာမဂန္ဓ အညှီအဟောက်၏ အနက်အဓိပ္ပာယ်များကို အထပ်ထပ် ဟောတော်မူသောအခါ တိဿ ရသေ့ဟာ ကိလေသာ အညှီအဟောက်ကင်းသော ဝဋ္ဋဆင်းရဲအားလုံးကို ပယ်ဖျောက်နိုင်သော တရားတော်ကို ကြားနာရ၍ နှိမ့်ချသောစိတ်ရှိလျက် ကဿပဘုရားရှင်အား ရှိခိုးကာ ထိုအရပ်၌ပင် ပဗ္ဗဇ္ဇာကိုရဟန်း

အဖြစ်ခံယူပြီး နှစ်ရက်၊ သုံးရက်အကြာ ရဟန္တာဖြစ်သွားတယ်"-ဟု ငါတို့ ဘုရားရှင်က ဟောတော်မူတော့ အာမဂန္ဓရသေ့အမှူးရှိတဲ့ ရသေ့ငါးရာလည်း တိဿရသေ့လို မာန်မာနတွေကျပြီး ဘုရားရှင်ကို ရှိခိုး၍ ရဟန်းပြုခွင့်တောင်းကြတယ်။

ဘုရားရှင်က **'ရဟန်းတို့၊ လာကြကုန်လော့'** လို့ ခေါ်တော်မူလိုက်တာနဲ့ပဲ ရသေ့တွေဟာ ရသေ့အသွင်ပျောက်ပြီး ရှစ်ပါးပရိက္ခရာစုံလင်စွာဖြင့် **'ဧဟိ ဘိက္ခု'** ရဟန်းဘဝ ရောက်သွားကြတယ်။

ရဟန်းဘဝ ရောက်ကြတယ်ဆိုရင် ဆွမ်းခံကြရတာမို့ သက်လွတ်၊ မလွတ်, ကောင်းကောင်းဆိုးဆိုး ရရသမျှနဲ့ ရောင့်ရဲမှီဝဲ သုံးဆောင်ကြရတယ်။

ရဟန်းတွေဟာ အာဟာရသပ္ပာယမျှတလျက် တရားအားထုတ်ကြရတော့ နှစ်ရက်၊ သုံးရက် အတွင်းမှာပင် ရဟန္တာတွေ ဖြစ်ကုန်ကြတယ်။



ဤသုတ်တော်ကို ကြည့်လျှင် ရသေ့အလို အညှီအဟောက်နှင့် ဘုရားရှင်အလို အညှီအဟောက်ဟာ လုံးဝမတူဘူး။ ဘုရားရှင်က သူ့အသက်သတ်ခြင်း စတဲ့ အကုသိုလ်တရားတွေကိုသာ အညှီအဟောက်လို့ဟောတော်မူတယ်။ အဲဒီအကုသိုလ်တွေကိုပြုလျှင် အညှီအဟောက်နဲ့ ထွက်မယ်။ သားငါးဘောဇဉ်ကို စားသည်ဖြစ်စေ၊ သားငါးလွတ်ဘောဇဉ်ကို စားသည်ဖြစ်စေ မဆင်ခြင်ဘဲ အရသာပေါ်မှာ တပ်မက်တဲ့ ရသတဏှာဖြစ်လျှင် အကုသိုလ်အညှီအဟောက်နဲ့ ထွက်မယ်။ ဘုရားရှင် ပေးတော်မူတဲ့နည်းအတိုင်း စားဖွယ်နှင့် စားမှုအပေါ်မှာ ဆင်ခြင်သုံးသပ်စားလျှင် အကုသိုလ်အညှီအဟောက် ရသတဏှာ မဖြစ်ဘူး။

တချို့က **"သတ်သူရှိလို့ စားတယ်၊ စားသူရှိလို့ သတ်တယ်၊ သတ်သူနှင့် စားသူ အတူတူပဲ"** လို့ ပြောတတ်ကြတယ်။ ဒီအပြောဟာ သားငါးကို ဘုဉ်းပေးတော်မူကြတဲ့ ဘုရား၊ ရဟန္တာတွေကိုတောင် ပါဏာတိပါတကံဖြင့် စွပ်စွဲရာပင် ရောက်သွားတယ်။ (ယခုခေတ် ဟင်းရွက်ပင်၊ ဟင်းသီးပင်တစ်ပင် ဖြစ်လာဖို့အတွက် ပိုးသတ်ဆေးဖြင့် ပိုးမွှားများကို သတ်ပြီးမှ ဟင်းရွက်ဟင်းသီးများကို ရယူရတယ်။)

သူတစ်ပါးအသက်ကို သတ်မှု 'ပါဏာတိပါတကံ' နှင့်ပတ်သက်၍ **ကိုယ်တိုင်, တိုက်တွန်း, ချီးမွမ်း, စိတ်တူ**ဆိုတဲ့ အကြောင်းခြင်းရာလေးချက်တွင် တစ်ချက်ချက်နဲ့ ငြိစွန်းမှ ဒုစရိုက်မကောင်းမှု ဖြစ်ပါတယ်။ အသက်မွေးဝမ်းကျောင်းအတွက် သတ်ဖြတ်၍ ရောင်းချတဲ့ သားငါးကို ဝယ်စားသူတွေမှာ —

၁။ ကိုယ်တိုင် သတ်ခြင်း

၂။ သတ်ရန် သူတစ်ပါးကို တိုက်တွန်းခြင်း၊ သတ်ခိုင်းခြင်း

၃။ သူတစ်ပါး၏ သားငါးသတ်နေတာကို ချီးမွမ်းခြင်း

၄။ သူတစ်ပါး၏ သားငါးသတ်နေမှုကို စိတ်သဘောတူခြင်း (သဘောကျခြင်း)။

အင်္ဂုတ္တရနိကာယ်၊ ဒသကနိပါတ်၊ သာမညဝဂ် (အံ၊ ၃၊ ၅၀၉၊ ယင်းမြန်မာပြန်၊ ၄၉၉။)

ဤလေးချက်တွင် မည်သည့်အချက်နှင့်မျှ ငြိစွန်းနေခြင်း မရှိသောကြောင့် ပါဏာတိပါတကံလည်း မထိုက်ပါဘူး။

ပြီးတော့ ပါဏာတိပါတကံမြောက်ဖို့ရန် အဘိဓမ္မာတရားတော်အရ —

၁။ သက်ရှိသတ္တဝါလည်း ဖြစ်ခြင်း။

၂။ သက်ရှိသတ္တဝါမှန်းလည်း သိခြင်း။

၃။ သတ်လိုတဲ့စိတ်လည်း ရှိခြင်း။

၄။ သတ်မှုလုံ့လကိုလည်း ပြုခြင်း။

၅။ ထိုလုံ့လကြောင့် သေလည်းသေခြင်း။

ဤအင်္ဂါငါးပါးနှင့် ပြည့်စုံမှ သူ့အသက်သတ်မှု ပါဏာတိပါတကံ မြောက်တယ်။ မပြည့်စုံလျှင် မမြောက်ဘူး။ (အဋ္ဌသာလိနီအဋ္ဌကထာ၊ ၁၄၀-မှ မြန်မာပြန်။)

ဈေးထဲမှာရောင်းတဲ့ အသေကောင် ဝယ်စားသူတွေဟာ အဲဒီ အင်္ဂါများအနက် ဘယ်အင်္ဂါနဲ့မှ ငြိစွန်းမှုမရှိတော့ အပြစ်မရှိပါဘူး။

ဘုရားရှင် ဟောတော်မူတဲ့ ပိဋကတော်လာ အဆိုအမိန့်များကို ထောက်ရှုသော် ရဟန်းသံဃာများက 'သူ့အသားကို မစားရန် မတား မြစ်ခြင်း' မှာ ဝိနည်းတရားတော်အရ အစွန်းသုံးပါးမှလွတ်သော အသား နှင့် အသားကြီးဆယ်မျိုးမှ လွတ်သော အသားကို ဘုရားရှင် ခွင့်ပြုတော် မူသောကြောင့် လည်းကောင်း၊ သုတ္တန်တရားတော်အရ ပိဏ္ဍပါတ သန္တောသ စားသုံးဖွယ်နှင့်ပတ်သက်၍ ကောင်းကောင်း ဆိုးဆိုး ကြမ်း ကြမ်းနုနု ရရသမျှနှင့် တင်းတိမ်ရောင့်ရဲရမည်-ဟု ဘုရားရှင် ဆုံးမတော် မူသောကြောင့် လည်းကောင်း၊ ပဝတ္တမံသ (ပံသုကူအသား- ဈေးမှာ ရောင်းသော အသား) သည် မိမိအနေဖြင့် ကိုယ်တိုင်သတ်ခြင်း၊ သူ တစ်ပါးကို သတ်ခိုင်းခြင်း၊ သူ့အသက် သတ်ခြင်းကို ချီးမွမ်းခြင်း၊ သူ့ အသက်သတ်ခြင်း၌ စိတ်တူခြင်း (သဘောကျခြင်း) ဤလေးချက်တွင် မည်သည့်အချက်၌မှ မပါဝင်သောကြောင့် လည်းကောင်း၊ အဘိဓမ္မာ တရားတော်အရ သားငါးကိုသတ်မှု ပါဏာတိပါတကံမြောက်ရန် အင်္ဂါ ငါးပါးတွင် မည်သည့်အင်္ဂါနှင့်မျှ မငြိစွန်းသောကြောင့် လည်းကောင်း ဖြစ်ပါတယ်။

သက်သတ်လွတ်သော အစားအစာဖြစ်စေ၊ သက်သတ်မလွတ်သော အစားအစာဖြစ်စေ အစားအစာသည် ပဓာနမဟုတ်ဘဲ မိမိစားသုံးမည့် စားဖွယ်အပေါ်၌ တပ်မက်တဲ့ ရသတဏှာမဖြစ်အောင်၊ လျှာကို မီးမလောင်အောင် ဆင်ခြင်စားသုံးဖို့သာ ပဓာနဖြစ်ကြောင်း ထပ်လောင်း ရှင်းပြအပ်ပါတယ်။



## အမှတ် (၂၇)

### ပစ္စည်းသရုပ်၊ ဓိပ္ပာယ်ထုတ်၊ တိုချုပ်ရှင်းပြပါ။

မေး ။ ။ အရှင်ဘုရား .

ပဋ္ဌာန်း ၂၄ ပစ္စည်း၏ အဓိပ္ပာယ်တစ်ခုစီကို အတိုဆုံး ဖွင့်ဆိုပေးတော်မူပါ။

မေတ္တာဝိဟာရီဝတ်အသင်း အဖွဲ့ဝင်တစ်ဦး

ဖြေ ။ ။ ပဋ္ဌာန်း ၂၄-ပစ္စည်း၏ အဓိပ္ပာယ်တစ်ခုစီကို ရှင်းပြရာဝယ် အတိုချုံးလွန်းလျှင် ကောင်းစွာနားလည် သဘောပေါက်လိမ့်မည် မဟုတ်သောကြောင့် မတိုလွန်း မကျဉ်းလွန်း နားလည်လွယ်ရုံ ရှင်းပြပါမယ်။

* ပဋ္ဌာန်းနှင့်ပတ်သက်သော ပုံများကို Triple GTem Publication မှ ထုတ်ဝေသော ပဋ္ဌာန်းစာအုပ်မှ ထုတ်ယူပါသည်။




(၁) **ဟေတုပစ္စည်း**၊ ဟေတုဆိုတာ လောဘ (လိုချင်ခြင်း, စုံမက်ခြင်းသဘော), ဒေါသ (ခက်ထန်ခြင်း, ပြစ်မှားခြင်းသဘော), မောဟ (အမှန်ကို ဖုံးကွယ်ခြင်း၊ မသိခြင်းသဘော) အလောဘ (မလိုချင်ခြင်း၊ မစုံမက်ခြင်းသဘော), အဒေါသ (မခက်ထန်ခြင်း, မပြစ်မှားခြင်းသဘော), အမောဟ (အမှန်အကန် သိခြင်းသဘော) တို့ပါပဲ။ ယင်းခြောက်ပါးကို ဟိတ်ခြောက်ပါးလို့ ခေါ်ပါတယ်။

"ရေသောက်မြစ်သည် သစ်ပင် ကြီးပွားခိုင်မြဲမှု၏အခြေခံ" ဖြစ်သကဲ့သို့ ထိုဟိတ်ခြောက်ပါး တရားများကိုလည်း မိမိတို့နှင့် အတူဖြစ်ဘက် နာမ်ရုပ်တရားတို့ ကြီးပွားခိုင်မြဲမှု၏ အကြောင်းရင်းအနေနဲ့ ကျေးဇူးပြုကြတာမို့ '**ဟေတုပစ္စည်း**'လို့ ခေါ်တယ်။

**ရေသောက်မြစ်လျှင်၊ ကိုယ့်သစ်ပင်ကို၊ စိမ်းရှင်ညွှန့်ဝေ၊ စည်ပင်စေထေ၊ ထောက်ပံ့မသို့ တကွဖြစ်ဟန်၊ ရုပ်နှင့်နာမ်ကို၊ စွမ်းသန်စေမှု၊ ကျေးဇူးပြု၊ ဟေတုသတ္တိခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၃၀။)




(၂) **အာရမ္မဏပစ္စည်း**။ အာရမ္မဏဆိုတာ အဆင်း, အသံ, အနံ့, အရသာ, အတွေ့, အတွေး စတဲ့ အာရုံခြောက်ပါးတို့ပါပဲ။ ယင်းအာရုံခြောက်ပါးတို့ဟာ မသန်မစွမ်းသူများ ကိုင်ဆောင်ကြရတဲ့ တောင်ဝှေးများ၊ ကိုင်ဆွဲကြရတဲ့ ကြိုးတန်းများနဲ့ တူကြတယ်။ သတ္တဝါတွေရဲ့စိတ်ဟာ အာရုံတစ်ခုခုကို မှီတွယ်ရမှသာ ဖြစ်နိုင်တာ။ အာရုံနဲ့ကင်းပြီး စိတ်မဖြစ်နိုင်ဘူး၊ အဆင်းအာရုံ ကြိုးတန်းတောင်ဝှေးကို ဆွဲကိုင်ရမှ မြင်သိစိတ်ဖြစ်တာ၊ အဆင်းအာရုံမပါဘဲ မြင်သိစိတ် မဖြစ်နိုင်ဘူး။ အခြား ကြားသိစိတ်, နံသိစိတ်, အရသာသိစိတ်, တွေ့သိစိတ်, တွေးသိစိတ်တွေလည်း မိမိတို့ဆိုင်ရာ အာရုံတွေမပါဘဲ မဖြစ်နိုင်ကြပါဘူး။ ထိုအာရုံခြောက်ပါးကို မိမိတို့ဆိုင်ရာ နာမ်တရားတို့၏ မှီတွဲဆွဲငင်စရာ အနေနဲ့ ကျေးဇူးပြုတတ်ကြလို့ **'အာရမ္မဏပစ္စည်း'** ခေါ်တယ်။

**တောင်ဝှေးကြိုးတန်း၊ သူမစွမ်းကို၊ မပန်းရပေ၊ ထိုင်ထစေသို့၊ စိတ်စေတသိ၊ ဆွဲကိုင်ဘိရန်၊ သတ္တိမှန်၊ အာရမ္မဏခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၃၈။)




(၃) **အဓိပတိပစ္စည်း**၊ အဓိပတိဆိုတာ ပြိုင်ဘက်မရှိ အစိုးရခြင်း၊ လွှမ်းမိုးအုပ်စိုးခြင်းလို့ အဓိပ္ပါယ်ရတယ်၊ ယင်းအဓိပတိက အာရမ္မဏာဓိပတိ, သဟဇာတာဓိပတိလို့ နှစ်မျိုးရှိတယ်။ မိမိနဲ့စပ်တဲ့ အာရမ္မဏိက တရား (အာရုံပြုတတ်သောနာမ်) တွေကို အုပ်စိုးလွှမ်းမိုးနိုင်သော သတ္တိကို 'အာရမ္မဏာဓိပတိ' လို့ ခေါ်တယ်၊ ဥပမာ- ရူပါရုံ (အဆင်း)ဟာ သာမန်ရူပါရုံ, အလွန်အကဲလှပတဲ့ ရူပါရုံဟု နှစ်မျိုးရှိတယ်။ သာမန်ရူပါရုံမှာ အာရမ္မဏသတ္တိ (အာရမ္မဏစွမ်းရည်) သာ ရှိတယ်၊ အာရမ္မဏာဓိပတိသတ္တိ မရှိဘူး၊ အလွန်အကဲလှပတဲ့ ရူပရုံမှာတော့ အာရမ္မဏသတ္တိရော အာရမ္မဏာဓိပတိသတ္တိပါ နှစ်မျိုးလုံး ရှိတယ်။ အာရမ္မဏာဓိပတိသတ္တိရှိတဲ့ ရူပါရုံက မိမိကို အာရုံပြုသော အာရမ္မဏိက လောဘမူစိတ်ကို လွှမ်းမိုးချင်တိုင်း လွှမ်းမိုးနိုင်တယ်၊ မမြင်ရလျှင် မနေနိုင်အောင် ဖြစ်စေတယ်။ ပဘာဝတီမင်းသမီး၏ အဆင်းရူပါရုံအပေါ်မှာ မမြင်ရ

မနေနိုင်အောင် စွဲမက်တဲ့ အာရမ္မဏာဓိပတိသတ္တိကြောင့် အလောင်းတော်ကုသမင်းဟာ ယူဇနာတစ်ရာဝေးသည့်ခရီးကို နေ့ချင်းပေါက်လှမ်း၍ ကြွမြန်းတော်မူတယ်။ သာမန်အာရုံထက် လွန်လွန်ကဲကဲ ဆွဲဆောင်နိုင်တဲ့ သတ္တိထူးရှိသော အာရုံကမှ အာရမ္မဏာဓိပတိ ပစ္စည်းတပ်သည့် အာရုံမည်တယ်။

**သာမန်အာရုံ၊ အဖုံဖုံထက်၊ သတ္တိထွက်၍ စိတ်စက်အစု၊ လေးဂရုဖြင့်၊ မပြု ပြုအောင်၊ စွမ်းဆောင်သတ္တိ၊ အာရုံရှိ၊ အဓိပတိခေါ်။**

(ဝီထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၄၀။)

**သဟဇာတာဓိပတိ**ကတော့ လေးကျွန်းလုံးကို အစိုးရတဲ့ စကြာမင်းကြီးနဲ့ တူတယ်။ စကြာမင်းဆိုတာ ပြိုင်ဘက်ကင်းပြီး အစိုးရသလို၊ ဒီအဓိပတိကလည်း မိမိနဲ့သက်ဆိုင်ရာ ယှဉ်ဖော်ယှဉ်ဖက် တရားတွေ အပေါ်မှာ အစိုးတရအနေနဲ့ ကျေးဇူးပြုတဲ့သဘောပါပဲ။

**နှစ်ပါးမမြင်၊ စကြာရှင်သို့၊ များဖြင်ကျယ်သည့်၊ စိုးရဘိ၊ အဓိပတိခေါ်။**

(မူလသင်တန်း မြတ်ပဋ္ဌာန်း)

တစ်နည်းအားဖြင့် ပြည့်ရှင်မင်းက မိမိနိုင်ငံဝယ် မိမိတစ်ဦးတည်းသာ ပိုင်နင်းအုပ်စိုး လွှမ်းမိုးနိုင်သလို၊ အလားတူပင် အတူတကွဖြစ်တဲ့ စိတ်စေတသိက် နာမက္ခန္ဓာတရားများကို တစ်ပါးတည်း အုပ်စိုးလျက် လွှမ်းမိုးနိုင်သည့် သတ္တိဟာ သဟဇာတာဓိပတိပစ္စည်း မည်တယ်။

**ကိုယ့်နိုင်ငံတွင်၊ မြတ်ဘုရင်သို့ များဖြင်တရား၊ တွဲဖက်များကို၊ တစ်ပါးတည်းက၊ အလိုကျအောင်၊ စိုးရလေတတ်၊ သတ္တိမြတ်၊ သဟဇာတ်မိပတိခေါ်။**

(ဝီထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၄၇။)




(၄) အနန္တရပစ္စည်း ၊ အနန္တရဆိုတာ အခြားမရှိဘဲ တစ်ဆက်တည်းဖြစ်တာမျိုးကို ဆိုလိုတယ်။ ခမည်းတော်မင်းကြီး နတ်ရွာစံသည်နှင့် တစ်ပြိုင်နက် သားတော်ကြီးက ခမည်းတော်ရဲ့ အရိုက်အရာကို ဆက်ခံပါတယ်။ ခမည်းတော်နဲ့ သားတော်၊ မင်းနှစ်ပါးတို့ မင်းဆက်မပြတ်ဘဲ တစ်ဆက်တည်း ဖြစ်တာမျိုးလိုပါပဲ။ အနန္တရပစ္စည်းကလည်း စိတ္တနိယာမအတိုင်း ဖြစ်ပျက်နေကြတဲ့ စိတ်အစဉ်တွေမှာ တစ်စိတ်နှင့် တစ်စိတ် နှစ်ခုအကြား လုံးဝအခြားမရှိဘဲ တစ်ဆက်တည်းဖြစ်၍ ကျေးဇူးပြုတဲ့ သဘောပါပဲ။

**ဖခင်မင်းဖျား၊ နတ်ရွာလားသော်၊ သားကြီးစင်စစ်၊ ကေရာဇ်၊ မင်းဖြစ် အနန္တရာ။**

(မူလသင်တန်း မြတ်ပဋ္ဌာန်း)

**နိယာမလာ၊ ဓမ္မတာဖြင့်၊ မကွာခြားမဲ့၊ စိတ်ဖြစ်တဲ့အောင်၊ စွမ်းဆောင်နိုင်ရန်၊ သတ္တိမှန်၊ အနန္တရခေါ်။**

(ဝီထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၅၂။)




(၅) **သမနန္တရပစ္စည်း**၊ သမနန္တရဆိုတာ (သံ- ကောင်းစွာ + အနန္တရ- အခြားမဲ့) ကောင်းကောင်းမွန်မွန် အခြားမရှိဘဲ တစ်ဆက်တည်း ဖြစ်တဲ့သဘောကို ဆိုလိုတယ်။ ခမည်းတော် စကြာမင်းကြီးက သားတော်ကြီးအား ထီးမွေနန်းမွေကို လွှဲအပ်ပြီးလျှင်ပြီးချင်း နတ်ရွာစံတာနဲ့ တူတယ်။ စိတ္တနိယာမအရ ဖြစ်ပျက်နေတဲ့ စိတ်အစဉ်မှာ ရှေးရှေးစိတ်က နောက်နောက်စိတ်အား ဆက်လက်ပေးသွားတဲ့ သဘောပါပဲ။ အနန္တရပစ္စည်းက အခြားမရှိဘဲ ကျေးဇူးပြုတယ်။ သမနန္တရပစ္စည်းက ကောင်းစွာ အခြားမရှိဘဲ ကျေးဇူးပြုတယ်။ **'ကောင်းစွာ'** ဆိုတဲ့ စကားတစ်လုံး ပိုလာတာသာ ထူးတယ်။ တရားကိုယ် သရုပ်သဘောများကတော့ မထူးပါဘူး။ တရားတော် လေးနက်အောင်သာ ထပ်ဆင့်ပြီး သမနန္တရပစ္စည်းကို ဟောတော်မူတာပါပဲ။

**စကြာဘုန်းလျှံ၊ နတ်ရွာစံလည်း၊ ခြွင်းချန်မွေနှစ်[၃၆]၊ ကောရာဇ်၊ ပေးလစ် သမနန္တရာ။**

(မူလသင်တန်း မြတ်ပဋ္ဌာန်း)

[၃၆] သားထံမွေနှစ်

တစ်နည်း ပြောရလျှင် 'သုဋ္ဌု အနန္တရာတိ သမနန္တရာ' အလွန် အကြားမရှိဘဲ နောက်စိတ် ဖြစ်ပေါ်လာအောင် ကျေးဇူးပြုနိုင်တဲ့ ရှေ့စိတ်၏သတ္တိဟာ သမနန္တရပစ္စည်း မည်တယ်။ ရုပ်တရားဟာ ရှစ်ခု၊ ကိုးခု စသည် ပေါင်းစပ် တွေခဲ ကလာပ်တွဲကာ ဖြစ်လေ့ရှိသည့်အတွက် ပုံသဏ္ဌာန် ထင်ရှားတယ်။ ယင်းကြောင့်ပင် ဤကလာပ်က ဟိုကလာပ်မှ အထက်မှာတည်တယ်, အောက်မှာတည်တယ်, ဝဲဘက်မှာ တည်တယ်, ယာဘက်မှာ တည်တယ်ဟု ခွဲခြား၍ ရလောက်အောင် ကလာပ်တစ်ခုနဲ့ တစ်ခုမှာ အကြားရှိတယ်၊ နာမ်တရားတွေမှာတော့ ယင်းကဲ့သို့ ပုံသဏ္ဌာန်လည်း မရှိ၊ တစ်ခဏတည်းဝယ် စိတ်နှစ်မျိုး, သုံးမျိုး ပြိုင်တူဖြစ်လေ့လည်း မရှိရကား ခွဲခြား၍မရ, ရှေ့စိတ်, နောက်စိတ်တို့ တစ်ခုတည်းကဲ့သို့ ထင်ရလောက်အောင် ဆက်သွယ်လျက် ဖြစ်ကြတယ်။

**စိတ်တို့ထုံးစံ၊ ပုံသဏ္ဌာန်လည်း၊ ကေန်မရ၊ တစ်ခဏဌ်၊ ဖြစ်ကြ နှစ်သုံး၊ ပေါင်းရုံးမရှိ၊ သို့ဖြစ်ဘိ၍၊ မည်သည့်စိတ်က၊ ထက်အောက်ကျလျက်၊ ဝဲမှဘယ်စိတ်၊ ယာဘယ်စိတ်ဟု၊ ခွဲကြိတ်ဝေလောက်၊ မရလောက်ဘဲ၊ ရှေ့နောက် နှစ်ခု၊ ကွဲသမူလည်း၊ တစ်ခုတည်းလို၊ အလွန့်ကိုယ်လျှင်၊ ထဲသိုကျစ်ကျစ်၊ ကြားမလစ်အောင်၊ ဖြစ်ရစ်စေရန်၊ သတ္တိမှန်၊ သမနန္တရခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၅၄။)




(၆) **သဟဇာတပစ္စည်း**၊ သဟဇာတဆိုတာ အတူတကွဖြစ်တာလို့ ဆိုလိုတယ်၊ ဆီမီးဟာ မီးတောက်လာတဲ့အခါ ဆီကုန်မှု, မီးစာကုန်မှု, အလင်းရောင် ထွက်ပေါ်မှု, အမှောင်ပယ်မှုကိစ္စတွေ တစ်ပြိုင်နက်ပေါ်လာကြသလိုပါပဲ၊ ခံစားမှု, မှတ်သားမှု, တိုက်တွန်းမှု, သိမှု စတဲ့ နာမ်တရားတွေဟာလည်း တစ်ပြိုင်နက် အတူတကွဖြစ်လာကြပြီး အချင်းချင်း ကျေးဇူးပြုကြတယ်၊ မြေ ရေ လေ မီးဆိုတဲ့ ဓာတ်ကြီးလေးပါး ရုပ်တရားတွေကလည်း ခုတင်ရဲ့ ခြေလေးချောင်းလို အချင်းချင်း အမှီသဟဲပြုလျက် ကျေးဇူးပြုကြတယ်။ အဲဒါ **'သဟဇာတပစ္စည်း'** သဘောပါပဲ။

**ဆီမီးတောက်သော်၊ အလင်းပေါ်သို့ ဖြစ်ဖော်ဖြစ်ဖက်၊ တစ်ပြိုင်နက်ဖြင့်၊**
**ဆက်ဆက်ဖြစ်ကြ၊ သတ္တိပြ၊ သဟဇာတခေါ်။**

(ဝိထိနှင့်သုံးချက်စု၊ ဘာသာဋီကာ၊ ၁၅၉။)




(၇) **အညမညပစ္စည်း**၊ အညမညဆိုတာ အပြန်အလှန် ကျေးဇူးပြုတဲ့သဘော, အပေးအယူ ရနိုင်တဲ့သဘောပါပဲ၊ ခြေထောက် သုံးချောင်းတပ် ခွေးခြေကလေးရဲ့ ခြေထောက်သုံးချောင်းဟာ အချင်းချင်း အပြန်အလှန် အမှီသဟဲပြု၍ ရပ်တည်ကြရတယ်, ယင်းကဲ့သို့ အင်တူအားတူ အပြန်အလှန် ကျေးဇူးပြုတဲ့သဘောပါပဲ, ဒါကြောင့် သဟဇာတဖြစ်တိုင်း အညမည မဖြစ်နိုင်ပါ၊ အဲဒါ '**အညမည**' ရဲ့ ထူးခြားချက်ပါပဲ။

**သစ်သားသုံးခွ၊ ချင်းချင်းမသို့၊ တကွဖြစ်ရန်၊ ပြန်အလှန်ဖြင့်၊ ထောက်ခံကူမ၊ သတ္တိပြ၊ အညမညခေါ်။**

(ဝီထိနှင့် သုံးချက်စု ဘာသာဋီကာ၊ ၁၆၆။)




(၈) **နိဿယပစ္စည်း**၊ နိဿယဆိုတာ မှီရာတည်ရာလို့ အဓိပ္ပါယ်ရတယ်၊ မှီတွယ်လာတဲ့ တရားတို့၏ အမှီခံသဘောပါပဲ၊ မြေကြီးဟာ သစ်ပင် စတဲ့ သက်ရှိသက်မဲ့ အရာဝတ္ထုတို့ရဲ့ မှီရာလိုပါပဲ၊ ခံစားမှု စတဲ့ နာမ်တရားတွေကလည်း အချင်းချင်း မှီရာအဖြစ်ဖြင့် ကျေးဇူးပြုကြ၊ မျက်စိအကြည် စတဲ့ ဝတ္ထုရုပ်များကလည်း သက်ဆိုင်ရာ နာမ်တရားတွေအား မှီရာအနေနဲ့ ကျေးဇူးပြုကြတာကို '**နိဿယပစ္စည်း**' လို့ ခေါ်တာပါပဲ။

**သစ်ပင်တည်ရာ၊ မြေပမာနှင့်၊ မှီရာကားပုံ၊ အရုပ်စုံသို့၊ ဖုံဖုံတည်ရာ၊ မှီစရာဟု၊ မဂ္ဂာဆန်းကြယ်၊ သတ္တိကြွယ်၊ မှတ်ဖွယ်နိဿယခေါ်။**

(ဝီထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၇၁။)




(၉) **ဉပနိဿယပစ္စည်း**၊ ဉပနိဿယဆိုတာ (ဉပ- အားကြီးအား ကောင်းသော + နိဿယ- မှီရာ) အားကြီးအားကောင်းသော မှီရာ-လို့ အဓိပ္ပါယ်ရတယ်၊ မိုးဟာ မိုးရေကိုမှီ၍ ပေါက်ရောက်ကြီးပွားရသော သစ်ပင်, သတ္တဝါတို့၏ အရေးကြီးသောမှီရာ ဖြစ်သကဲ့သို့ ထက်မြက် သောအာရုံ စတဲ့ တရားတို့ကလည်း ဆိုင်ရာတရားတို့အား အားကြီး အားကောင်းသော မှီရာအနေနဲ့ ကျေးဇူးပြုတဲ့ သဘောဟာ '**ဉပနိဿယ ပစ္စည်း**' ပါပဲ။

မိုးနှင့်မကင်း၊ စုံခပင်း၏၊ မိုးတွင်းမိုးသာ၊ လွန်ကဲစွာလျှင်၊ မှီရာ အကြောင်း၊ ဖြစ်စကောင်းသို့၊ အပေါင်းပစ္စယ၊ ဖြစ်ဖို့မှူ၌၊ အားပြု ဖွယ်ရာ၊ လွန်ကဲစွာသည့်၊ မှီရာဗလ၊ သတ္တဲပြ၊ ဉပနိဿယခေါ်။

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၈၅။)




(၁၀) **ပုရေဇာတပစ္စည်း** ၊ ပုရေဇာတဆိုတာ (ပုရေ- ရှေ့မှာ + ဇာတ- ဖြစ်တယ်) ရှေ့မှာဖြစ်တယ်လို့ ပြောလိုတယ်။ ကမ္ဘာဦးက ပေါ်ထွက်လာကြတဲ့ နေ လတို့နဲ့ တူတယ်။ နေ လတို့ဟာ ရှေးဦးစွာ ဖြစ်နှင့်ကြ၍ ယခုတိုင် ထင်ရှားရှိကုန်လျက် နေ လ ပေါ်ထွက်ပြီးနောက်မှ ပေါ်ပေါက်လာတဲ့ သက်ရှိသက်မဲ့ အရာများအား အလင်းခတ်ပေးမှု၊ အပူ အအေးခတ်ပေးမှု ပြုကြတယ်။ ထိုနည်းတူ မျက်စိ အကြည်ရုပ်၊ အဆင်းရုပ် စသည်တို့လည်း ရှေးဦးစွာ ဖြစ်နှင့်ကြပြီး နောက်မှဖြစ်တဲ့ မြင်သိစိတ် စသည်တို့အား ကျေးဇူးပြုတာ 'ပုရေဇာတပစ္စည်း' ပါပဲ။

**ကမ္ဘာဦးက၊ ပေါ်ထွန်းစသည့်၊ နေ လနှစ်ပါး၊ ခုထင်ရှားလျက်၊ နောက်ပွားလူစု၊ အလင်းပြုသို့၊ ပစ္စယုပ္ပန်လျှင်၊ မဖြစ်ခင်က၊ ကြိုတင်ဖြစ်နေ၊ သတ္တိပေ၊ ပုရေဇာတခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၁၉၆။)




(၁၁) ပစ္ဆာဇာတပစ္စည်း ၊ ပစ္ဆာဇာတဆိုတာ (ပစ္ဆာ- နောက်မှ + ဇာတ- ဖြစ်တာ) နောက်မှဖြစ်တာလို့ ဆိုလိုတယ်။ လင်းတငယ်၏ အစာအာဟာရ၌ စားရနိုးနဲ့ မျှော်ကိုးတောင့်တမှု အာသာ စေတနာနဲ့ တူတယ်။ မိဘဖြစ်တဲ့ လင်းတတွေဟာ သားသမီးဖြစ်တဲ့ လင်းတငယ်တွေအတွက် အစာဆောင်ယူလာရိုး မရှိဘူးတဲ့၊ လင်းတငယ်လေးတွေဟာ မိဘတို့ပြန်လာရင် မိမိတို့အတွက် အစာပါလာနိုးနဲ့ မျှော်ကိုးတောင့်တမှု အာသာစေတနာက လင်းတငယ်များ၏ ကိုယ်ကို ထောက်ပံ့ထားတဲ့အတွက် အတောင်အလက်စုံ၍ ကိုယ်တိုင် အစာရှာနိုင်သည့်တိုင်အောင် အသက်မသေဘဲ တည်တံ့နေနိုင်ကြတယ်၊ ရှေးဦးစွာ ဖြစ်နှင့်ပြီးသော လင်းတငယ်၏ ကိုယ်ကာယအား နောက်ကာလ၌ ဖြစ်သော အစာအာဟာရ၌ စားရနိုး မျှော်ကိုးတောင့်တမှု အာသာစေတနာက ကျေးဇူးပြုတဲ့ သဘောပါပဲ။

လင်းတပေါက်စ၊ ကိုယ်ကာယ၌၊ ဟာရအာသာ၊ စေတနာက၊ ရေမှာပေါ်ပေါက်၊ ဌီသို့ရောက်သည့်၊ ထက်အောက်သိမ်းချုပ်၊ ကိုယ်လုံးရုပ်ကို၊ လွှမ်းအုပ်အကုန်၊ ထောက်ပံ့ပုံသို့၊ ကြည်ယုံမခြား၊ ဌီခိုက်ပြားသည့်၊ ရေဖျားရုပ်တု၊ နောက်စိတ်စုက၊ ထောက်မှုပံ့ကာ၊ သတ္တိဖြာ၊ ပစ္ဆာဇာတခေါ်။

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၀၂။)

ပုရေဇာတာနံ ရူပဓမ္မာနံ ဥပတ္ထမ္ဘကဋ္ဌေန ဥပကာရကော အရူပဓမ္မော ပစ္ဆာဇာတပစ္စယော ဂိဇ္ဈပေါတကသရီရာနံ အာဟာရာ သာ စေတနာ ဝိယ။ တေန ဝုတ္တံ "ပစ္ဆာဇာတာ စိတ္တစေတသိကာ ဓမ္မာ ပုရေဇာ တဿ ဣမဿ ကာယဿ ပစ္ဆာဇာတပစ္စယေန ပစ္စယော"တိ။

(အဘိ၊ ဋ္ဌ၊ ၃ = ပဋ္ဌပကရဏဋ္ဌကထာ၊ ၃၄၉။)

ဂိဇ္ဈပေါတကသရီရာနံ အာဟာရာသာ စေတနာ ဝိယာတိ ဧတေန မနောသဥ္စေတနာဟာရဝသေန ပဝတ္တ မာနေဟိ အရူပဓမ္မေဟိ ရူပ ကာယဿ ဥပတ္ထမ္ဘိတဘာဝံ ဒဿေတိ။ တေနေဝ "အာဟာရာ သာ ဝိယာ"တိ အဝတွာ စေတနာဂဟဏံ ကရောတိ။

(အဘိ၊ မူဋီ၊ ၃-ပဋ္ဌပကရဏမူလဋီကာ၊ ၁၇၂။)




(၁၂) **အာသေဝနပစ္စည်း**၊ အာသေဝနပုဒ်က (အာ- အဖန်ဖန် အထပ်ထပ် + သေဝန- ထုံခြင်း, ဖြစ်စေခြင်း) အဖန်ဖန် အထပ်ထပ် ဖြစ်စေခြင်းလို့ ဆိုလိုတယ်၊ အကြိမ်ကြိမ် နှံ့သာလိမ်းထားသလိုပါပဲ။ ရှေးရှေးလိမ်းမှုက နောက်နောက်လိမ်းမှုအား အထောက်အကူပြု၍ အနံ့စွဲသွားတဲ့ သဘောပါပဲ၊ တစ်နည်းအားဖြင့် ကျမ်းဂန်တစ်ခုကို သင်ယူရာ၌ သင်ခါစမှာ ခက်ခဲသော်လည်း တဖြည်းဖြည်း အရှိန်ရလာသည့်အခါ လွယ်ကူလာတော့တယ်၊ ရှေးရှေးသင်ယူမှုက နောက်နောက် သင်ယူမှုအား လွယ်ကူအောင် ကျေးဇူးပြုသလိုပါပဲ။ အာသေဝနပစ္စည်းက ကုသိုလ်, အကုသိုလ်, ကြိယာဇောများနှင့်သာ သက်ဆိုင်ပါတယ်၊ ဇောစိတ်ဆိုတာ အကြိမ်ကြိမ် ဖြစ်ပါတယ်၊ ရှေ့ဇောစိတ်က မိမိနှင့် အလားတူ နောက်ဇောတစ်ခု ထပ်မံဖြစ်ပေါ်လာအောင် မိမိ၏သတ္တိအရှိန်ပေး၍ ကျေးဇူးပြုတဲ့သဘောဟာ '**အာသေဝနပစ္စည်း**' ပါပဲ။

ကြိမ်ကြိမ်နှံ့သာ၊ လိမ်းသည့်တာကြောင့်၊ ထုံစွာကြိုင်မြ၊ ရနံ့စွဲ၊ ခေါ်မြဲ အာသေဝန။

(မူလသင်တန်း မြတ်ပဋ္ဌာန်း)

ကျမ်းဂန်တို့တွင်၊ ရှေးရှေးသင်ကား၊ နောက်သင်ယူမှု၊ လွယ်အောင်ပြုသို့၊ စုစုရှေ့သွား၊ ဇောတရားက၊ နောက်ပါးဇောဆက်၊ သတ္တိတက်၍၊ ထက်မြက်ပစေ၊ ထုံမွှမ်းလေ၊ အာသေဝနခေါ်။

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၁၃။)




(၁၃) **ကမ္မပစ္စည်း**၊ ကမ္မဆိုတာ အလုပ်အမှုလို့ အဓိပ္ပါယ်ရတယ်။ တရားကိုယ်သဘောအရတော့ တိုက်တွန်းနှိုးဆော်ကြောင်း **'စေတနာ'** ကို ယူရတယ်၊ ယင်းစေတနာကိုပင် 'ကံ' လို့ ခေါ်တယ်၊ ကမ္မပစ္စည်း ဟာ သဟဇာတ ကမ္မပစ္စည်းနဲ့ နာနက္ခဏိက ကမ္မပစ္စည်းဟု နှစ်မျိုး ရှိတယ်။ ယင်းနှစ်မျိုးတွင် တကွဖြစ်ဖက်တရားစုအား ကျေးဇူးပြုတဲ့ စေတနာသည် သဟဇာတကမ္မပစ္စည်း ဖြစ်တယ်၊ ထိုစေတနာက လုံ့လ ကြောင့်ကြဗျာပါရ အားကြီးသော တပည့်ကြီးများ, ခေါင်းဆောင်များ နဲ့ တူတယ်၊ ခေါင်းဆောင်ဆိုတာ လုပ်ငန်းတစ်ခု ပြုလုပ်ရာတွင် မိမိ ကိုယ်တိုင်လည်း ပြုလုပ်ရတယ်, လက်အောက်ငယ်သားတွေကိုလည်း တိုက်တွန်းပေးရတယ်၊ စေတနာခေါ် ကံတရားကလည်း တွဲဖက်တရား တို့အား တိုက်တွန်းပေးခြင်း, မိမိကိစ္စကို ဆောင်ရွက်ခြင်းဖြင့် ကျေးဇူး ပြုပါတယ်။

**နာနက္ခဏိက** ကမ္မပစ္စည်းကတော့ အကျိုးပစ္စယုပ္ပန်တရားနဲ့ တစ်ပြိုင်နက်သော ခဏမှာဖြစ်သော သဟဇာတကမ္မလို တစ်ပြိုင်နက်သောခဏမှာ ဖြစ်သည်မဟုတ်ဘဲ အကျိုးပစ္စယုပ္ပန်တရားဖြစ်ရာ ခဏက နောက်ကျပြီး ကံ (စေတနာ) ဖြစ်ရာခဏက ရှေ့ကျပါတယ်၊ အကျိုးတရားနှင့် အကြောင်းတရားဟာ သီးခြားစီ ဖြစ်ပါတယ်၊ အကျိုးပစ္စယုပ္ပန်မှ တသီးတခြား ကွဲပြားသောခဏ၌ ဖြစ်သော အကြောင်းစေတနာသည် နာနက္ခဏိက ကမ္မပစ္စည်း မည်တယ်၊ မျိုးစေ့ဟာ မြေ ရေ စတဲ့ အကြောင်း အထောက်အပံ့ရလျှင် ကြီးကျယ်သော သစ်ပင်ကို ဖြစ်စေနိုင်သလို ဤနာနက္ခဏိက စေတနာကလည်း ဂတိ ကာလ ဥပဓိ ပယောဂ[၃၃] ဟူသော အကြောင်း အထောက်အပံ့ရလျှင် ကြီးကျယ်သော ဝိပါက်နာမက္ခန္ဓာ ကမ္မဇရုပ်များကို ဖြစ်စေလျက် (ခန္ဓာအစဉ် ဘဝတည်းဟူသော သစ်ပင်ပေါက်အောင်) ထမြောက် ဖြစ်ပေါ်စေနိုင်တယ်၊ ယင်းကမ္မပစ္စည်းကား ဆီမီးနဲ့လည်း တူပါတယ်၊ ဆီမီးဟာ အမှောင်ကိုလည်းခွင်း အလင်းကိုလည်းပြဆိုတဲ့ ကိစ္စနှစ်မျိုးကို တစ်ပြိုင်နက် ပြီးစေသကဲ့သို့ ကံတရားကလည်း တကွဖြစ်ဖက် တရားတို့အား သဟဇာတ ကမ္မသတ္တိဖြင့် တိုက်တွန်းခြင်းကိစ္စ, နောင်အဆက်ဆက် အကျိုးတရားတို့ကို နာနက္ခဏိက ကမ္မသတ္တိဖြင့် ဖြစ်ပွားစေခြင်း နှစ်မျိုးကို တစ်ပြိုင်နက် ပြီး စေနိုင်ပါတယ်။

**တပည့်ကြီးများ၊ ခေါင်းဆောင်များ၌၊ ငယ်သားထက်ကဲ၊ ဗျာပါသဲသို့၊**

**ထိုနဲ့မကွာ၊ စေတနာ၏၊ သေချာကဲ့စွ၊ ဗျာပါရ၊ ကမ္မသတ္တိခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၁၈။)

[၃၃] ဂတိ (ဂတိသမ္ပတ္တိ) ဂတိနှင့်ပြည့်စုံခြင်း၊ ကောင်းသောဘဝ၌ ဖြစ်ရခြင်း၊ ကာလ (ကာလသမ္ပတ္တိ) မင်းကောင်းမင်းမြတ်တို့ အုပ်စိုးသော ခေတ်ကာလနှင့် ပြည့်စုံခြင်း၊ ဥပဓိ (ဥပဓိသမ္ပတ္တိ) ခြေ လက် စသော ကိုယ်အင်္ဂါများနှင့် ပြည့်စုံခြင်း၊ ပယောဂ (ပယောဂသမ္ပတ္တိ) ကောင်းသော လုံ့လပယောဂနှင့် ပြည့်စုံခြင်း။




(၁၄) **ဝိပါကပစ္စည်း**၊ ဝိပါကဆိုတာ အကျိုးလို့ အဓိပ္ပါယ်ရတယ်။ ကံရဲ့အကျိုးပါပဲ၊ လူအေးတစ်ယောက်နဲ့ တူတယ်၊ လူအေးတစ်ယောက် က အခြားလူအေးများအား အေးအေးနေကြရန် စီမံသကဲ့သို့ မိမိ ကိုယ်တိုင်ကလည်း ကြောင့်ကြမှုကင်းလျက် ငြိမ်သက်သည်ဖြစ်၍ တကွဖြစ်ဖက် တရားစုအားလည်း ကြောင့်ကြကင်းလျက် ငြိမ်သက် ဖို့ရာ ကျေးဇူးပြုတတ်သည့် သဘောကို 'ဝိပါကပစ္စည်း' လို့ ခေါ်ပါတယ်။

**မိမိကိုယ်က၊ ဗျာပါရတို့၊ လုံးဝမရှိ၊ ငြိမ်သက်ဘိ၍၊ မိမိတမူ၊ တူအောင် ငြိမ်သက်၊ ဖြစ်စေချက်၊ ဝိပါက်သတ္တိခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၂၇)




(၁၅) **အာဟာရပစ္စည်း** ၊ အာဟာရပုဒ်က ဆောင်ရွက်ခြင်း၊ ထောက်ပံ့ခြင်းကို ဟောတယ်။ အိမ်အို ကျောင်းအိုများကို မယိုင်လဲရအောင် ထောက်ပံ့ထားသည့် 'ကျား' ခေါ်တဲ့ ထောက်တိုင်နဲ့တူတယ်။ ရုပ်အာဟာရ နာမ်အာဟာရတို့က ဆိုင်ရာရုပ်နာမ်တို့အား တည်တံ့ခိုင်မြဲအောင် ထောက်ပံ့ခြင်းဖြင့် ကျေးဇူးပြုတဲ့သဘောပါပဲ။

**အိမ်အို ကျောင်းအို၊ မပြိုလဲအောင်၊ ကြံရည်ဆောင်၍၊ မြဲအောင်တိုင်များ၊ အကူအားဖြင့်၊ ကျားထောက်သည့်ဟန်၊ ပစ္စယုပ္ပန်ကို၊ မြဲမြဲစေလျက်၊ နောက်နောင်ဆက်အောင်၊ ဆောင်ရွက်နိုင်ဘိ၊ ထောက်ပံ့သည့်၊ သတ္တိအာဟာရခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၃၀။)




(၁၆) **ဣန္ဒြိယပစ္စည်း**၊ ဣန္ဒြိယဆိုတာ အစိုးရခြင်းလို့ ဆိုလိုတယ်၊ အမတ်ကြီး ဝန်ကြီးတို့ရဲ့ အစိုးရခြင်းနှင့်တူတယ်။ အမတ်ကြီး ဝန်ကြီးဆိုတာ မိမိဆိုင်ရာနယ်ပယ်, ကိစ္စများ၌သာ အစိုးရတယ်၊ စကြာမင်းကြီးကဲ့သို့ ပြိုင်ဘက်ကင်းပြီး ကမ္ဘာကို အစိုးရနိုင်တာမျိုး မဟုတ်ဘူး၊ အဲဒါ အဓိပတိပစ္စည်း၏ အစိုးရမှုနှင့် ဣန္ဒြိယပစ္စည်း၏ အစိုးရမှုတို့ ခြားနားချက်ပါပဲ။ ဥပမာ- မျက်စိအကြည်ဓါတ် စက္ခုန္ဒြေဟာ မြင်ခြင်းကိစ္စ၌သာ အစိုးရတယ်၊ အခြားသော ကြားခြင်းကိစ္စ စသည်၌ အစိုးမရဘူး၊ ဒါကြောင့် ရုပ်နာမ်ဣန္ဒြေတရားတို့ဟာ မိမိတို့ဆိုင်ရာ နာမ်ရုပ်တွေအပေါ်မှာသာ အစိုးရခြင်းဖြင့် ကျေးဇူးပြုတယ်။

**တစ်ပြည်တွင်း၌၊ ချင်းချင်းမဆန့်၊ ခွဲခန့်အုပ်စီး၊ မှူးမတ်နည်းသို့ သီးသီးဌာန၊ ကိုယ့်ကိစ္စ၌၊ စိုးရပလေ၊ သတ္တိတွေ၊ ဣန္ဒြေပစ္စည်းခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၃၅။)




(၁၇) ဈာနပစ္စည်း ၊ ဈာနဆိုတာ စူးစူးစိုက်စိုက်ရှုမှုကို ခေါ်တယ်။ သစ်ပင်ပေါ်, တောင်ထိပ်ပေါ်သို့ တက်သူနဲ့ တူတယ်။ သစ်ပင်ပေါ်, တောင်ထိပ်ပေါ် တက်သူဟာ အောက်ခြေနဲ့ အဝေးအရပ်မှာရှိတဲ့ အထူးအဆန်းအမျိုးမျိုးကို ကိုယ်တိုင်လည်း ကြည့်ရမြင်ရတယ်၊ မိမိမြင်သမျှကို အောက်ခြေရှိ လူတွေကိုလည်း ပြောပြနိုင်တယ်၊ ထို့အတူ ဈာန်တရားတွေကလည်း ဆိုင်ရာအာရုံကို မိမိတို့ကိုယ်တိုင်ကလည်း စူးစူးစိုက်စိုက် ရှုမှတ်တယ်၊ တကွဖြစ်ဖက် တရားတွေအားလည်း အာရုံစူးစိုက်ဖို့ရန် ကျေးဇူးပြုတယ်။

**သစ်ပင်တောင်ဖျား၊ နေသူများလည်း၊ နီးနားဝေးနေ၊ များထွေထွေ၊ ရှုလေ ဈာနခေါ်။**

(မူလသင်တန်း မြတ်ပဋ္ဌာန်းကျမ်း၊ ၆၀။)

**အာရုံစုစု၊ ဈာန်စက္ခုဖြင့်၊ ရှုလေတိုက်ရိုက်၊ စူးစိုက်စိုက်တည်း၊ နောက်လိုက်တို့အား၊ ကိုယ့်အလားဖြင့်၊ ရှုစားစေရ၊ သတ္တိပြ၊ ဈာနပစ္စည်းခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၄၃။)




(၁၈) **မဂ္ဂပစ္စည်း** ၊ မဂ္ဂပုဒ်က လမ်းခရီးကို ဟောတယ်၊ ပကတိလမ်းခရီးက မိမိအပေါ်၌ သွားလာသူတို့ကို လိုရာအရပ်သို့ ဆောင်ပို့သကဲ့သို့ မဂ္ဂင်တရားတို့ကလည်း အတူဖြစ်ဖက် တရားစုကို လိုရာအာရုံသို့ ဆောင်ပို့သောအားဖြင့် ကျေးဇူးပြုတဲ့သဘောဟာ **မဂ္ဂပစ္စည်း** ပါပဲ။

**ပကတိလမ်း၊ လိုရာမြန်းဖို့၊ ဆောင်စွမ်းသည့်နှယ်၊ သတ္တိကြွယ်သို့၊ သွယ်သွယ်တကွ၊ ဖြစ်သမျှကို၊ ကိစ္စအာရုံ၊ လိုရာကြုံအောင်၊ ပို့ဆောင်နိုင်စွ၊ သတ္တိပြ၊ မဂ္ဂပစ္စည်းခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၄၅။)




(၁၉) **သမ္မယုတ္တပစ္စည်း**။ သမ္ပယုတ္တဆိုတာ အညီအမျှ သမဖြစ်ခြင်း၊ ယှဉ်တွဲရောစပ်ခြင်းလို့ အဓိပ္ပါယ်ရတယ်၊ စတုမဓုနှင့် တူတယ်၊ စတုမဓုခေါ်တဲ့ ထောပတ်, ပျားရည်, တင်လဲ, ဆီ ဤအဆီအချို လေးမျိုးကို သမအောင် ကျိုချက်ပြီးတဲ့အခါ ဤအရသာက ထောပတ်အရသာ၊ ဤအရသာက ပျားရည်အရသာ စသည်ဖြင့် ခွဲခြားမရနိုင်အောင် သမနေသကဲ့သို့ နာမ်ခန္ဓာလေးမျိုးတို့ဟာလည်း အတူတကွ ယှဉ်ကြတဲ့အခါ ဤသဘောက ဝေဒနက္ခန္ဓာ, ဤသဘောက သညာက္ခန္ဓာ စသည်ဖြင့် ခွဲခြား၍မသိသာအောင် သမယှဉ်တွဲ၍ အချင်းချင်း မဆန့်ကျင်ဘဲ ကျေးဇူးပြုတဲ့သဘောကို **'သမ္မယုတ္တပစ္စည်း'** လို့ ခေါ်တယ်။

**စတုမဓု၊ ရောစပ်မှုကို၊ နည်းယူရန်လုပ်[၃၀] ၊ ပုံစံထုတ်၍ ကေုပ္ပါဒ၊ ပကာရဖြင့်၊ သမလျက်သာ၊ ယှဉ်ကြရာဝယ်၊ မကွာသဘော၊ လိုက်လျောနိုင်စွ၊ သတ္တိပြ၊ သမ္မယုတ္တခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၄၆။)

[၃၀]စတုမဓု၊ ရောစပ်မှုကို၊ နည်းယူရန်လုပ်။




(၂၀) **ဝိပ္ပယုတ္တပစ္စည်း**၊ ဝိပ္ပယုတ္တဆိုတာ မယှဉ်တွဲခြင်းလို့ အဓိပ္ပါယ်ရတယ်၊ ပဒုမ္မာကြာဟာ ရေညှိနွန်ကို မှီတွဲကြီးပွားရသော်လည်း ယင်းရေညှိနွန်နဲ့ ငြိကပ်ခြင်းမရှိပါ၊ တစ်နည်းအားဖြင့် အရသာခြောက်ပါး ရောစပ်ထားရာ၌ ရောပင်ရောသော်လည်း အရသာတစ်မျိုးနဲ့ အရသာတစ်မျိုး မနှီးမနှောမိကြသဖြင့် 'အညီအမျှသမ' မဖြစ်သလိုပါဘဲ၊ ရုပ်နဲ့နာမ်တို့လည်း အတူတကွ ဖြစ်ကြသော်လည်း ရောနှောယှဉ်စပ်မှုမရှိဘဲ ကျေးဇူးပြုတဲ့သဘောပါပဲ။

**ကြာ ရေညှိနွန်ဓာတ်၊ တူမှီလတ်လည်း၊ ငြိကပ်မရှိ၊ ဖြစ်ပုံ၏သို့၊ တူဘိ ရုပ်နာမ်၊ တွဲမှီပြန်လည်း၊ ရောရန်မရှိ၊ ထိုသတ္တိ၊ မှတ်သိ ဝိပ္ပယုတ်ခေါ်။**

(ကိုယ်တိုင်ရေး)

**ရသာခြောက်ပါး၊ ရောစပ်ထားသို့၊ နှစ်ပါးရုပ်နာမ်၊ ပစ္စယုပ္ပန်ပစ္စည်း၊ တစ်ချိန်တည်းဝယ်၊ သီးသီးတွေ့ကြ၊ ဆုံမိကြလည်း၊ သမသဘော၊ မလိုက်ရောကြ၊ သတ္တိပြ၊ ဝိပ္ပယုတ္တခေါ်။**

(ဝီထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၄၈။)




(၂၁) **အတ္ထိပစ္စည်း**၊ အတ္ထိဆိုတာ ထင်ရှားရှိနေဆဲလို့ အဓိပ္ပါယ်ရတယ်။ သစ်ပင်တို့အား ထောက်ပံ့သော မြေကြီးနဲ့တူတယ်။ မြေကြီးက မိမိအပေါ်မှာ ပေါက်နေတဲ့ သစ်ပင်တို့အား စိမ်းရှင်အောင် ထောက်ပံ့သကဲ့သို့ **အတ္ထိပစ္စည်း** ဖြစ်ထိုက်တဲ့ တရားများကလည်း မိမိတို့ ထင်ရှားရှိခိုက်၌ မိမိတို့ကဲ့သို့ ထင်ရှားရှိနေသော တရားတို့အား ထောက်ပံ့ကျေးဇူးပြုပါတယ်။

**မြင်းမိုရ်နှင့်မြေ၊ သစ်ပင်တွေကို၊ ရှိလေရှိဆဲ၊ ထောက်ပံ့နဲ့သို့၊ ပစ္စဲ-ပစ္စယုပ်[၄၉]၊ ကင်းမချုပ်ဘဲ ပစ္စုပ်ခိုက်ရှိ[၅၀]၊ ထောက်ပံ့တို၊ အတ္ထိသတ္တိခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၅၆။)

[၄၉]ပစ္စဲ- ပစ္စည်း၊ ပစ္စယုပ်- ပစ္စယုပ္ပန်ကို ဆိုလိုသည်။
[၅၀]ဖြစ်ဆဲပစ္စုပ္ပန်အခိုက်ရှိဟု ဆိုလို




(၂၂) **နတ္ထိပစ္စည်း** ၊ နတ္ထိပုဒ်က ချုပ်ခြင်း, မရှိခြင်းအနက်ကို ဟောတယ်၊ အတ္ထိပစ္စည်းက ဆိုင်ရာတရားများ ထင်ရှားရှိခိုက်မှာ ကျေးဇူးပြုတယ်။ နတ္ထိပစ္စည်းကတော့ ချုပ်ပြီး, မရှိပြီးမှ ကျေးဇူးပြုတယ်၊ ငြိမ်းလေပြီးသော ဆီမီးက အမိုက်မှောင်ဖြစ်ရစ်ရန် အခွင့်ပေးသကဲ့သို့ ထိုနည်းတူစွာ စိတ္တနိယာမအရ မိမိရှေ့တရားများ မရှိခြင်း, ချုပ်ပျောက်သွားခြင်းဖြင့် နောက်တရားတို့အား ဖြစ်ရစ်စေရန် ကျေးဇူးပြုမှုသဘောကို **နတ္ထိပစ္စည်း**လို့ ခေါ်တယ်။

**ဆီမီးငြိမ်းပျောက်၊ အမှောင်ရောက်သို့၊ ကိုယ့်နောက်စိတ်စေး[၁]၊**
**ဖြစ်ခွင့်ပေးလျက်၊ ရှေးရှေးစိတ်၏၊ ချုပ်ပျောက်ဘိ၊ နတ္ထိသတ္တိခေါ်။**
(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၆၀။)

[၁] စိတ်၊ စေတသိက်




(၂၃) **ဝိဂတပစ္စည်း**၊ ဝိဂတဆိုတာ ကင်းပျောက်ခြင်းလို့ အဓိပ္ပါယ်ရတယ်။ နတ္ထိပစ္စည်းမှာ ချုပ်ပြီးတရားများက ကျေးဇူးပြုတယ်။ ဝိဂတပစ္စည်းမှာတော့ ကင်းပြီးတရားများက ကျေးဇူးပြုတယ်၊ ချုပ်ခြင်းနဲ့ ကင်းခြင်းဆိုတာ အနက်သာ ကွဲပြားတာ, အရကောက်သဘော အဓိပ္ပါယ်ကတော့ အတူတူပါပဲ၊ ဒေသနာတော်ရဲ့ တင့်တယ်စေမှု, သတ္တဝါတို့၏ အလိုဆန္ဒပြည့်ဝစေမှုတို့အတွက် ထပ်မံဟောတာပါ။ နေရောင်၏ ကွယ်ပျောက်ခြင်းသည် လရောင် လင်းဖို့ရာ အခွင့်ပေးသကဲ့သို့ ထိုနည်းတူစွာ ဖြစ်ပျက်နေတဲ့ စိတ်အစဉ်လည်း ရှေ့စိတ်က ကင်းပျောက်သွား၍ နောက်စိတ် ဖြစ်ပေါ်လာခြင်း ဖြစ်တယ်။ ဒါကြောင့် ရှေ့ရှေ့တရားတို့ ကင်းပျောက်မှုဖြင့် နောက်နောက်တရားစုအား ကျေးဇူးပြုတာကို **'ဝိဂတပစ္စည်း'**လို့ ခေါ်တယ်။

**နေရောင် ကွယ်ပျောက်၊ လရောင် ရောက်သို့၊ ကိုယ့်နောက်စိတ်စေး၊**
**ဖြစ်ခွင့်ပေးလျက်၊ ရှေးရှေးစိတ်၏၊ ကင်းကွာဘိ၊ ဝိဂတသတ္တိခေါ်။**

(ဝီထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၆၀။)




(၂၄) **အဝိဂတပစ္စည်း**၊ အဝိဂတဆိုတာ မကင်းခြင်းလို့ အဓိပ္ပါယ်ရတယ်၊ အတ္ထိပစ္စည်းနဲ့ တရားအရကောက် အတူတူပါပဲ၊ ဒေသနာတော်၏ တင့်တယ်မှုအကျိုး, ပုဂ္ဂိုလ်တို့ရဲ့ အလိုဆန္ဒပြည့်ဝမှုအကျိုး ဤနှစ်မျိုးကို ရည်ရွယ်၍ ထပ်မံဟောတော်မူခြင်းပါ, သမုဒ္ဒရာသည် မိမိ၌ တည်ရှိနေကြသော ငါး, လိပ် စသော သတ္တဝါတို့အား မိမိ မကုန်သေးသမျှ နေနိုင်ကြဖို့ရာ ကျေးဇူးပြုသလိုပါပဲ၊ တစ်နည်းအားဖြင့် မိဘနဲ့ သားသမီး, ဆရာနဲ့ ဒကာ အချင်းချင်း မကင်းကြဘဲ ကျေးဇူးပြုတာနဲ့လည်း တူပါတယ်၊ နာမ်ခန္ဓာလေးပါးက အချင်းချင်းမကင်းဘဲ ကျေးဇူးပြုကြတယ်၊ မဟာဘုတ်လေးပါး ရုပ်တရားများကလည်း အချင်းချင်း မကင်းကြဘဲ ကျေးဇူးပြုကြတယ်၊ အဲဒါ '**အဝိဂတပစ္စည်း**' သဘောပဲ။

**သမုဒ်နက်ရေ၊ ငါး လိပ်တွေကို၊ မကင်းလေဘဲ၊ ထောက်ပံ့နဲ့သို့၊ ပစ္စ-**
**ပစ္စယုပ်၊ မကင်းချုပ်ဘဲ၊ ပစ္စုပ်ခိုက်ရှိ၊ ထောက်ပံ့ဘိ၊ အဝိဂတခေါ်။**

(ဝိထိနှင့်သုံးချက်စု ဘာသာဋီကာ၊ ၂၅၈။)



အမှတ် (၂၈)

မေး။ ။ (က) အရှင်ဘုရား. . .

အလိုပြည့်သည်ဆိုသော ဗုဒ္ဓဆင်းတုတော်အား ပန်း စသည် ကိုးမျိုးစီလှူပြီး ဆုတောင်းလျှင် အမှန်တကယ် အလိုပြည့်ဝ စေနိုင်ပါသလော? အဘယ်ကြောင့်ပါနည်း? ဖော်ပြပါအတိုင်း ဗုဒ္ဓ ဟောကြားခဲ့ပါသလော။ ဖြေကြားပေးစေလိုပါသည် ဘုရား။

(က) ကိုးမျိုးစုံစွ၊ လှူဒါန်းမှ၊ ဆုက ပြည့်မည်လော ?

(ခ) အရှင်ဘုရား. . .

ဆုတောင်းပွဲ ကျင်းပ၍ ဗုဒ္ဓဘုရားရှင်ထံမှာ ဆုတောင်းခြင်း သည် ထေရဝါဒဗုဒ္ဓဘာသာနှင့် ညီပါသလား? ဗုဒ္ဓဘုရားရှင် က အမှန်တကယ် ဆုတော်ပေးသနားပါသလား ဘုရား။

(ခ) မိမိတောင့်တ၊ ဆုကိုပ၊ ဗုဒ္ဓ ပေးသလော ?

(ဂ) အရှင်ဘုရား. . .

မကြာမီက တပည့်တော်ထံသို့ ဗွီဒီယိုနှစ်ခွေ ရောက်ရှိလာပါ သည်။ နှစ်ခွေစလုံးတွင် Bay Area[၆၂] အတွင်းရှိကျောင်းထိုင် ဆရာတော်တစ်ပါး ပဋ္ဌာန်းရွတ်နေစဉ် စေတီတော်မှ ရောင်ခြည်တော် ကွန့်မြူးနေကြောင်း ဖော်ပြထားပါ သည်။ ဓာတ်တော်သည် ဘယ်အခါမှာ ဘာကြောင့် ကွန့်မြူးပါ သနည်း? ဖော်ပြပါအတိုင်း အမှန်တကယ် ကွန့်မြူးလေ့ရှိ

[၆၂] ဆန်ဖရန်စစ္စကို ပင်လယ်ကွေ့အတွင်းဘက် နေရာများ

*ပါသလော? ဗုဒ္ဓ ဟောကြားချက် ရှိပါသလော? ဖြေကြား ပေးစေလိုပါသည် ဘုရား။*

(ဂ)ဗုဒ္ဓမြွက်ဖော်၊ ရောင်ခြည်တော်၊ ဘယ်သော်အခါ လွှတ်မည်လော ?

*Steven Arthur Lee*

*3234 Eastmoor Ave. Daly City, CA 94015*

ဖြေ ။ ။ (က) ရှေးဦးစွာ ဗုဒ္ဓဆင်းတုတော်၏ အဓိပ္ပါယ်ကို သိဖို့ လိုပါသည်။ ဗုဒ္ဓဆင်းတုတော်ဟူသည် ဘုရားရှင် ဟောတော်မူခဲ့သော စေတီ တော်သုံးမျိုး[၄၃] အနက် သက်တော်ထင်ရှား ဘုရားရှင်ကိုရည်ရွယ်၍ ကိုယ်တော်စား ထုလုပ်အပ်သော 'ဥဒ္ဒိဿကစေတီ' ဖြစ်သည်၊ အလို ပြည့်သည်ဟူသော အထူးပြုပုဒ်သည် လူတို့၏ ထင်မြင်ယူဆချက်ဖြင့် ခေါ်ဝေါ် ပညတ်အပ်သော အမည်တစ်ခု ဖြစ်သည်၊ ပန်းစသည့် ကိုးမျိုးစီ ဟူသော စကားသည်လည်း ဗေဒင်ဆရာတို့၏ အသုံး ကိုးနဝင်းကို ရည်ရွယ်သော ဝေါဟာရသာ ဖြစ်သည်၊ မည်သည့် ဗုဒ္ဓဆင်းတုတော် အားမဆို ဘုရားရှင်၏ ဂုဏ်တော်ကို အာရုံပြု၍ ပန်းတစ်ပွင့်၊ နှစ်ပွင့် စသည်ဖြင့် ပူဇော်ပြီး ဆုတောင်းနိုင်ပါသည်။

ငါတို့ဘုရားရှင်လက်ထက်တော်က 'ဥမာပုပ္ဖိယ'မည်သော မထေရ် တစ်ပါး ရှိခဲ့ပါသည်။ ထိုမထေရ်အလောင်း အမျိုးကောင်းသားသည် ပရိနိဗ္ဗာန်စံလွန်တော်မူပြီးသော သိဒ္ဓတ္ထဘုရားရှင်၏ စေတီတော်အား နှင်းချပ် (အညိုရောင်ပွင့်သော ပန်းပင်တစ်မျိုး) ပန်းတစ်ပွင့်ကို လှူဒါန်း ပူဇော်ခဲ့သော ကောင်းမှုကြောင့် ၉၄ ကမ္ဘာပတ်လုံး အပါယ်ဒုဂ္ဂတိစကား ကိုမျှ မကြားမသိရဘဲ သုဂတိဘုံတို့၌သာ ဖြစ်ခဲ့ရပြီးလျှင် ငါတို့၏ ဘုရား ရှင်လက်ထက်တော်ဝယ် ပဋိသမ္ဘိဒါပတ္တ ရဟန္တာဖြစ်ရသည်ဟု ဥမာပုပ္ဖိ ယတ္ထေရအပဒါန်၌ လာရှိပါသည်။[၄၄]

**ကိုးမစုံဘဲ၊ လှူဒါန်းလဲ၊ ရမြဲ- ကျိုးပြည့်သည်။**

---

[၄၃] သာသီရိကစေတီ (ဓာတုစေတီ)၊ ပါရိဘောဂိကစေတီ (ပရိဘောဂစေတီ)၊ ဥဒ္ဒိဿကစေတီ (ဥဒ္ဒိဿ စေတီ)

[၄၄] ခု၊ ၃-အပဒါနပါဠိတော်၊ ၁၊ ၁၉၀။ အပဒါနအဋ္ဌကထာ၊ ၂၊ ၁၅၇။)

ဆုတောင်းပြည့်မှု၊ မပြည့်မှုကား လှူဒါန်းသူ၏အပေါ်၌ တည်ပါသည်။ လှူဒါန်းသူသည် (၁) ရတနာသုံးပါးတို့၌ ထက်သန်ယုံကြည်သော သဒ္ဓါ၊ (၂) ကိုယ်ကျင့်သီလ၊ (၃) စစ်မှန်သော ဘာသာရေး အကြားအမြင် သုတ၊ (၄) လွတ်လွတ် ပေးကမ်းစွန့်ကြဲခြင်း စာဂ၊ (၅) ပစ္စုပ္ပန် တမလွန် အကျိုးစီးပွားကို သိသော ဉာဏ်ပညာ ဤငါးပါးတို့နှင့် ပြည့်စုံ၍ ဆုတောင်းလျှင် ဆုတောင်းပြည့်ဝနိုင်ကြောင်း ဥပရိပဏ္ဏာသ သင်္ခါရုပ္ပတ္တိသုတ်[၆၅] ၌ လာပါသည်။

**အင်္ဂါငါး၀၊ ပြည့်စုံက၊ တောင့်တ ဆုပြည့်မည်။**

(ခ) ဆုတောင်းပွဲ ကျင်းပ၍ ဘုရားရှင်ထံမှာ ဆုတောင်းခြင်းသည် ထေရဝါဒဗုဒ္ဓဘာသာနှင့် မညီပါ။ ဘုရားရှင်က ဆုတော်ပေးသနားသည်ဟု မရှိပါ။ ကိုယ်တိုင်ကျင့်လျှင် လူ့ချမ်းသာ၊ နတ်ချမ်းသာ၊ ဗြဟ္မာ့ချမ်းသာတို့အပြင် နိဗ္ဗာန်ချမ်းသာကိုပင် ရနိုင်သော လမ်းစဉ်များကို ညွှန်ကြားတော်မူခဲ့သည်။ အပါယ်လေးပါး ကျရောက်နိုင်သည့် လမ်းဆိုးများကိုလည်း မကျရောက်ရလေအောင် ညွှန်ပြတော်မူခဲ့ပါသည်။

**ဘုရားရှင်ဟာ၊ လမ်းညွှန်သာ၊ လမ်းရှာ ကိုယ်တိုင်ကျင့်ရမည်။**

[၆၅]မ၊ ၃ = ဥပရိပဏ္ဏာသပါဠိတော်၊ ၁၄၀-၁၄၆။ မြန်မာပြန်၊ ၁၄၅-၁၅၀။ မ၊ ဋ္ဌ၊ ၄ = ဥပရိပဏ္ဏာသအဋ္ဌကထာ၊ ၁၀၄။)

(ဂ) ဓာတ်တော်ဟူသည် ဓာတုစေတီ ဖြစ်သည်။ ပါထိကဝဂ္ဂအဋ္ဌကထာ သမ္မောဒနီယသုတ် သာသနာကွယ်ခြင်း၏အဖွင့် [၄၆] ဝယ် ဘုရားရှင်၏ အဓိဋ္ဌာန်တော်ကြောင့် သာသနာကွယ်ပမည့် နောက်ဆုံးအချိန်မှာ သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ)၌ ဓာတ်တော်တို့သည် စုဝေး၍ မဟာစေတီတော်သို့ ကြွကြလိမ့်မည်။ ထိုစေတီတော်မှတစ်ဆင့် နာဂဒီပ (နဂါးကျွန်း) လင်းလွန်းပင်စေတီတော်သို့လည်းကောင်း၊ ထိုမှ တစ်ဆင့် အိန္ဒိယနိုင်ငံ ဗုဒ္ဓဂယာ မဟာဗောဓိပလ္လင်သို့ လည်းကောင်း၊ ကြွရောက်ကြလိမ့်မည်။ နဂါးပြည်၊ နတ်ပြည်၊ ဗြဟ္မာပြည်တို့မှ ဓာတ်တော် အားလုံးတို့သည် မဟာဗောဓိပလ္လင်သို့သာ ရောက်ရှိကြလိမ့်မည်။ မုန်ညင်းစေ့အရွယ်မျှ ဓာတ်တော်တို့သည်ပင် ကြားကာလဝယ် ပျက်စီးခြင်းမရှိကုန်ဘဲ မဟာဗောဓိပလ္လင်၌ ရွှေတိုင်ကဲ့သို့ တစ်စုတစ်ခဲတည်း ဖြစ်ကုန်လျက် ရောင်ခြည်တော် ခြောက်သွယ်တို့ ကွန့်မြူးလတ္တံ့။ ထိုရောင်ခြည်တော်တို့သည် လောကဓာတ်တစ်သောင်းသို့ ပျံ့နှံ့ကုန်လတ္တံ့။ စကြဝဠာတစ်သောင်းမှ နတ် ဗြဟ္မာတို့သည် စုဝေးကြကုန်လျက် **'ယနေ့ ဘုရားရှင်ကား ပရိနိဗ္ဗာန်စံတော်မူလေပြီ။ ယနေ့ သာသနာတော်ကား ဆုတ်ယုတ်ကွယ်ပလေပြီ။ ယခုအခါ ငါတို့၏ ဤဖူးမြင်ရခြင်းကား နောက်ဆုံး ဖူးမြင်ရခြင်းပင် ဖြစ်ချေ၏'** ဟု ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူသော နေ့ထက်ပင် အထူးသဖြင့် ကြီးမားသော သနားခြင်း ကရုဏာကို ပြုကြကုန်လတ္တံ့။ အနာဂါမ်၊ ရဟန္တာပုဂ္ဂိုလ်တို့ကိုထား၍ ကြွင်းကျန်သော ပုဂ္ဂိုလ်တို့သည် မိမိတို့ သဘောအားဖြင့် ထောက်တည်ရာမရကုန်ဘဲ စိုးရိမ်ပူဆွေး ငိုကြွေးကုန်လတ္တံ့။ ဓာတ်တော်တို့၌ တေဇောဓာတ်ထ၍ မီးလျှံများဖြစ်ကာ ဓာတ်တော်အားလုံးတို့ကို အကြွင်းအကျန်မရှိ

[၄၆] ဒီ၊ ဋ္ဌ၊ ၃၊ ၈၃-၈၄။)

လောင်ကျွမ်းကုန်လိမ့်မည်။ ဤသို့ ကြီးကျယ်သော တန်ခိုးအာနုဘော်ကိုပြ၍ ဓာတ်တော်တို့ ကွယ်ပခြင်းသည် သာသနာတော် ကွယ်ခြင်းပင်ဖြစ်သည်။ ဤသည်ကား ဘုရားရှင်၏အဓိဋ္ဌာန်ကြောင့် သာသနာတော်၏ ကွယ်ပမည့် နောက်ဆုံးအချိန်ဝယ် ဓာတ်တော်တို့ ရောင်ခြည်တော်လွှတ်ခြင်း၊ ကွန့်မြူးခြင်း ဖြစ်ပါလိမ့်မည်။

ပါထိကဝဂ္ဂဋ္ဌကထာ၌လည်း ဇမ္ဗူဒိပ်ကျွန်း၊ အခြားကျွန်းများ၊ နတ်ပြည်၊ နဂါးပြည်၊ ဗြဟ္မာပြည်တို့၌ ဖရိုဖရဲ ပြန့်ကျဲ၍ တည်ရှိကုန်သော ဓာတ်တော်တို့၏ မဟာဗောဓိပလ္လင်ဌာန၌ တစ်ပေါင်းတည်း စုဝေးခြင်း၊ ရောင်ခြည်တော်လွှတ် (ကွန့်မြူး) ခြင်း၊ တေဇောဓာတ် ထကြွခြင်း၊ တစ်ခဲနက်သော မီးလျှံဖြစ်ခြင်း ဤဖြစ်ရပ်များသည် ဘုရားရှင် အဓိဋ္ဌာန်တော်၏ အစွမ်းအားဖြင့်သာလျှင် ဖြစ်၏ဟု မှတ်အပ်၏။

## အဓိဋ္ဌာန်တော်၊ စွမ်းအားလျော်၊ ဓာတ်တော် လွှတ်ရောင်ခြည်။

ဓာတူနံ သန္နိပါတနာဒီ ဗုဒ္ဓါနံ အဓိဋ္ဌာနေနေဝါတိ ဝေဒိတဗ္ဗံ။
ဇမ္ဗုဒီပေ, ဒီပန္တရေသု, ဒေဝနာဂဗြဟ္မလောကေသု စ
ဝိပ္ပကိရိတွာ ဌိတာနံ, ဓာတူနံ မဟာဗောဓိပလ္လင်္ကဋ္ဌာနေ
ကေဋ္ဌ သန္နိပါတနံ ရသ္မိဝိဿဇ္ဇနံ, တတ္ထ တေဇောဓာတုယာ
ဥဋ္ဌာနံ, ကေဇာလိဘာဝေါ စာတိ သဗ္ဗမေတံ သတ္ထု
အဓိဋ္ဌာနဝသေနေဝါတိ ဝေဒိတဗ္ဗံ။

(ဒီ၊ ဋ္ဌ၊ ၃ - ပါထိကဝဂ္ဂဋ္ဌကထာ၊ ၈၃-၈၄။)

## စေတီတန်ခိုး၊ ပြသုံးမျိုး၊ ကျမ်းကိုး မိလိန္ဒ။

မိလိန္ဒပဉှာပါဠိတော်၊ ဝေဿန္တရဝဂ်၊ ‘စေတိယပါဋိဟာရိယပဉှ[၄၇] ၌ စေတီတော် တန်ခိုးပြခြင်း, တန်ခိုးမပြခြင်းနှင့် ပတ်သက်၍ မိလိန္ဒမင်းကြီး၏အမေးကို အရှင်နာဂသေနမထေရ် ဖြေကြားရာဝယ် ‘သုံးဦးသော ပုဂ္ဂိုလ်တို့၏ အဓိဋ္ဌာန်ကြောင့် ပရိနိဗ္ဗာန်စံတော်မူပြီးသော ဘုရားရှင်၏ စေတီတော်သည် တန်ခိုးပြ၍ အဓိဋ္ဌာန်မပြုလျှင် စေတီတော်သည် တန်ခိုးမပြပါ’ ဟု လာရှိပါသည်။

(၁) ရဟန္တာပုဂ္ဂိုလ်သည် နတ် လူတို့အား သနားသဖြင့် စေတီတော်၏အနီး၌ရပ်လျက် ‘ဤစေတီတော်သည် ဤမည် ဤမည်သော တန်ခိုးပြစေသတည်း’ဟု အဓိဋ္ဌာန်ပြု၏။ ထိုရဟန္တာပုဂ္ဂိုလ်၏ အဓိဋ္ဌာန်အတိုင်း စေတီတော်သည် တန်ခိုးပြသည်။

(၂) နတ်တို့သည် လူတို့အား သနားသောအားဖြင့် သူတော်ကောင်းတရားကို လူအများတို့ ချီးမြှောက်ကြစေရန် လည်းကောင်း၊ စေတီတော်ကို ကြည်ညိုသောအားဖြင့် ကုသိုလ်တရား တိုးပွားကြစေရန် လည်းကောင်း ‘ဤစေတီတော်သည် ဤသို့ ဤသို့သော တန်ခိုးပြစေသတည်း’ ဟု နတ်တို့၏ အဓိဋ္ဌာန်အတိုင်း စေတီတော်သည် တန်ခိုးပြသည်။

(၃) သာသနာတော်၌ ကြည်ညို၍ အသိ အလိမ္မာ ဉာဏ်ပညာရှိသော ယောကျာ်း, မိန်းမ တစ်ယောက်ယောက်သည် ‘ဤသို့ ဤသို့သော တန်ခိုးကို ပြပါစေသတည်း’ဟု အဓိဋ္ဌာန်ပြု၍ ပန်း, နံ့သာ, အဝတ်ပုဆိုး စသော လှူဖွယ်ဝတ္ထု တစ်ခုခုကို စေတီတော်အပေါ်သို့ တင်မြှောက်လိုက်၏။ ထိုသူ၏ အဓိဋ္ဌာန်အတိုင်း စေတီတော်သည် တန်ခိုးပြသည်။

[၄၇] မိလိန္ဒပဉှာ၊ ဝေဿန္တရဝဂ်၊ စေတိယပါဋိဟာရိယပဉှာ၊ ၂၉၇-၂၉၈။ မြန်မာပြန်၊ ၃၁၈-၃၁၉။

ယခုအခါ ဤသုံးမျိုးသော စေတီတော် တန်ခိုးပြခြင်း၊ ဓာတ်တော် ကွန့်မြူးခြင်းတို့ ဖြစ်နိုင်ကြသော်လည်း ဤဗွီဒီယိုခွေမှ အလင်းရောင် ဖြစ်ရပ်မှာ ဗွီဒီယိုရိုက်စဉ်က မည်သူမျှ မတွေ့မြင်ရသောကြောင့် နတ် လူ အများ ကုသိုလ်တိုးပွားကြရန် ပုဂ္ဂိုလ်သုံးဦးတို့တွင် တစ်ဦးဦး၏ အဓိဋ္ဌာန် ကြောင့် ဓာတ်တော်တန်ခိုးပြခြင်း၊ ကွန့်မြူးခြင်းမျိုး မဟုတ်နိုင်ပါ။

ထေရဝါဒ ဗုဒ္ဓဘာသာ၏ လမ်းညွှန်မှုမှာ ကိုယ်တိုင်ကျင့်ကြံ အားထုတ်မှသာ အကျိုးရနိုင်သော လုပ်ငန်းစဉ်ဖြစ်၍ "ဤမည်သော စေတီ ဘုရား ဆင်းတုတော်များကို ပူဇော်လျှင် အလိုပြည့်၏၊ ဆုတောင်း ပြည့်၏"-ဟူသော ယုံကြည်မှုသည် မှန်ကန်သော အယူအဆ မဟုတ်ပါ။ အခြားသော ဘုရား ဆင်းတုတော်များကို ပူဇော်လျှင်ကား အလိုမပြည့်, ဆုတောင်းမပြည့်ဟု ဆိုရာ၊ ယူဆရာရောက်သောကြောင့် **သရဏဂုံပင် ညှိုးနွမ်းဖွယ်ဖြစ်၍** သတိထားသင့်ကြသည်။



## အမှတ် (၂၉)

## နိဗ္ဗာန်ဝင်သွား၊ ထေရ်မြတ်များ၊ ကိုယ်စား ဓာတ်တော်ကျန်ပါသလော ?

မေး ॥ ॥ အရှင်ဘုရား . .

ပရိနိဗ္ဗာန်စံယူတော်မူသော ရဟန္တာ အရှင်မြတ်တိုင်းမှာ ဓာတ်တော်များကျခြင်း၊ ကြွင်းကျန်ခြင်း ရှိ၊ မရှိ သိလိုပါသည် ဘုရား။

မိုးဟိန်း *(Fremont)*

ဖြေ ။ ။ ပရိနိဗ္ဗာန်စံယူတော်မူကြသော ရဟန္တာအရှင်မြတ်တိုင်းမှာ ဓာတ်တော်များ ကျ၊ မကျ ကြွင်းကျန်ခြင်းရှိ၊ မရှိဟူသည် ယင်းအရှင်မြတ်တို့၏ အဓိဋ္ဌာန်တော်အတိုင်း ဖြစ်ပါသည်။ အရှင်သာရိပုတ္တမထေရ်၊ အရှင်မဟာမောဂ္ဂလ္လာန်မထေရ်၊ အရှင်အာနန္ဒာမထေရ်စသော ရဟန္တာအရှင်မြတ်တို့၏ ဓာတ်တော်များ ကြွင်းကျန်ခဲ့ကြသော်လည်း အရှင်အညာသိကောဏ္ဍညမထေရ်နှင့် အရှင်ရာဟုလာမထေရ်တို့၏ ဓာတ်တော်များ ကြွင်းကျန်၊ မကျန် မထင်ရှား။ အရှင်ဒဗ္ဗမထေရ် စသော အရှင်မြတ်များ၏ ဓာတ်တော်များ လုံးဝကြွင်းကျန်ခြင်း မရှိပါ။

အနည်းငယ်ချဲ့ရလျှင် ပရိနိဗ္ဗာန်စံယူတော်မူကြသော အရှင်သာရိပုတ္တမထေရ်နှင့် အရှင်မဟာမောဂ္ဂလာန်မထေရ်တို့၏ ဓာတ်များကို ဘုရားရှင်ကိုယ်တော်တိုင်ပင် စေတီတော်များ တည်စေခဲ့ပါသည်။[၄၈] အရှင်အာနန္ဒာမထေရ်က ဆွေတော်မျိုးတော်ဖြစ်ကြသော သာကီယမင်း၊ ကောလိယမင်းတို့၏ ရောဟိဏီမြစ်ရေမူခင်းကိစ္စနှင့် ပတ်သက်၍ ငြိမ်းချမ်းရေးရစိမ့်သောငှာ ရောဟိဏီမြစ်၏ အလယ်ဗဟိုကောင်းကင်ဝယ် ထက်ဝယ်ဖွဲ့ခွေနေတော်မူကာ 'ငါ၏ကိုယ်သည် ထက်ခြမ်းကွဲ၍ တစ်ခြမ်းသည် ဤမှာဘက်ကမ်း၌ကျ၍ ကျန်တစ်ခြမ်းသည် ဟိုမှာဘက်ကမ်း၌ ကျစေသတည်း' ဟု အဓိဋ္ဌာန်တော်မူသည့်အတိုင်း တေဇောဓာတ် လောင်ကျွမ်းပြီး ကိုယ်တော်သည် ထက်ခြမ်းကွဲလျက် တစ်ခြမ်းသည် သာကီယမင်းတို့ ပိုင်သော ရောဟိဏီမြစ်၏ ဤမှာဘက်ကမ်း၌ကျ၍ ကျန်တစ်ခြမ်းသည် ကောလိယမင်းတို့ ပိုင်သော ရောဟိဏီမြစ်၏ ဟိုမှာဘက်ကမ်း၌ ကျပါသည်။ [၄၉]

[၄၈] သုတ်မဟာဝါအဋ္ဌကထာ၊ မဟာပရိနိဗ္ဗာနသုတ်၊ နိမိတ္တောဘာသကထာအဖွင့် (ဒီ၊ ဋ္ဌ၊ ၂၁၄၄)၊ မဟာဝဂ္ဂသံယုတ်အဋ္ဌကထာ၊ စုန္ဒသုတ်အဖွင့် (သံ၊ ဋ္ဌ၊ ၃၊ ၂၅၃-၂၅၄။)

[၄၉] ဓမ္မပဒ အဋ္ဌကထာ၊ ပထမတွဲ၊ ဝနဝါသီတိဿသာမဏေရဝတ္ထု (ဓမ္မပဒ၊ ဋ္ဌ၊ ၁၊ ၃၄၂-၃၄၃။)

အရှင်အညာသိကောဏ္ဍညမထေရ်သည် ဟိမဝန္တာ ဆဒ္ဒန်အိုင်၌ ပရိနိဗ္ဗာန်စံယူပြီး အရှင်ရာဟုလမထေရ်သည် တာဝတိံသာနတ်ပြည်၌ ပရိနိဗ္ဗာန်စံယူခဲ့ကြောင်းများသာ ကျမ်းဂန်များ၌ လာရှိ၍ ဓာတ်တော်များနှင့် ပတ်သက်သည့် မည်သည့်အဆိုအမိန့်မျှ မပါမရှိပါ။ [၅၀]

အရှင်ဒဗ္ဗမထေရ်ကတော့ ကောင်းကင်ကို မြေပြင်သဖွယ် ဖန်ဆင်းကာ ထိုင်နေတော်မူလျက် တေဇောကသိုဏ်း အခြေခံသောစျာန်ကို ဝင်စားပြီးနောက် ကိုယ်တော်မှ မီးတဟုန်းဟုန်းထ၍ တောက်လောင်ရန် အဓိဋ္ဌာန်တော်မူသည့်အတိုင်း မထေရ်မြတ်၏ကိုယ်မှ မီးတဟုန်းဟုန်း တောက်လောင်သော ခဏအတွင်း မီးသွေးမျှပင် မကျန်ကြွင်းစေဘဲ အလုံးစုံ တစ်ပြိုင်နက် လောင်ကျွမ်းငြိမ်းပျောက်သွားပါသည်။ [၅၁]



## အမှတ် (၃၀)
## စိတ်ဟိုဒီပြေး၊ တည်ငြိမ်ရေး၊ ထိန်းပေးတော်မူပါ။

မေး ။ ။ အရှင်ဘုရား. . .

စိတ်ကို မည်သို့မည်ပုံ တည်ငြိမ်အောင် ထိန်းရပါမလဲ ဘုရား။ တပည့်တော်၏ အခက်အခဲမှာ စာဖတ်နေစဉ်သော် လည်းကောင်း၊ ဘုရားရှိခိုးနေစဉ်သော် လည်းကောင်း စိတ်က ဟိုဟိုဒီဒီ ရောက်နေတတ်ပါသည်ဘုရား။

*Lay Hwa Kaw (Pasadena City College)*

---

[၅၀] သုတ်မဟာဝါအဋ္ဌကထာ၊ မဟာပရိနိဗ္ဗာနသုတ်၊ နိမိတ္တောဘာသကထာအဖွင့် (ဒီ၊ ဋ္ဌ၊ ၂၁၃၉)၊ မဟာဝဂ္ဂသံယုတ်အဋ္ဌကထာ၊ စုန္ဒသုတ်အဖွင့် (သံ၊ ဋ္ဌ၊ ၃၊ ၂၄၆)။

[၅၁] ဥဒါနအဋ္ဌကထာ၊ ပဌမဒဗ္ဗသုတ်အဖွင့် (၃၈၉)

## စိတ်မငြိမ်လျှင်၊ လေထွက်ဝင်၊ အစဉ်ရှုမှတ်ပါ။

ဖြေ ။ ။ စိတ်ကို တည်ငြိမ်အောင် စိတ်ထိန်းနည်းမှာ တစ်ခုတည်းသော အာရုံ၌ စူးစိုက်ရှုမှတ်သော အလေ့အကျင့်ကို လုပ်ပေးရပါမည်။ အထူးသဖြင့် ထွက်လေ၊ ဝင်လေကို မှတ်သောနည်းကို လေ့ကျင့်ပေးရပါမည်။ စိတ်ကို နှာသီးဖျားမှာထား၍ လေ (အသက်)ရှူသွင်းလိုက်သောအခါ ဝင်လေ၊ လေ (အသက်)ရှူထုတ်လိုက်သောအခါ ထွက်လေဟု မှတ်ပါ။ ဝင်လေထွက်လေကို မှတ်နေစဉ်အတွင်းမှာပင် စိတ်က ဟိုဟိုဒီဒီ ထွက်သွားတတ်သည်။ စိတ်မပျက်ရ။ စိတ်ထွက်သွားသည်ကိုပင် သတိချပ်၍ သိမှတ်နေရမည်။ ဤကဲ့သို့ နေ့စဉ် တစ်နာရီလောက် လေ့ကျင့်ပေးနိုင်လျှင် စိတ်တည်ငြိမ်လာပါလိမ့်မည်။



### အမှတ် (၃၁)

### ရေစက်ချတာ၊ စဉ်အလာ၊ ဘယ်ခါ စခဲ့ပါသနည်း ?

မေး ။ ။ အရှင်ဘုရား . .

တပည့်တော်တို့ ဗုဒ္ဓဘာသာ၌ သာရေးနာရေးပွဲများ၌ ရေစက်ချခြင်း ပြုလုပ်လေ့ရှိပါသည်။ ထိုသို့ ရေစက်ချခြင်းသည် ဘုရားဟော အစဉ်အလာ ဟုတ်၊ မဟုတ်နှင့် မည်သည့်အချိန်က စတင်ခဲ့သည်ကို မှတ်သားသိရှိလိုပါသည် ဘုရား။

ဖိုးထူး *(San Francisco)*

ဖြေ ။ ။ ရေစက်ချခြင်းသည် ဘုရားဟော အစဉ်အလာ ဟုတ်ပါသည်။ မြန်မာတို့ ရေစက်ချပုံစဉ်လာနှင့် မတူဘဲ ရှေးတုန်းက ရေစက်ချပုံမှာ အလှူခံပုဂ္ဂိုလ်၏ လက်ထဲသို့ ရေသွန်းလောင်း၍ ရေစက်ချသော ထုံးတမ်းစဉ်လာ ဖြစ်သည်။ မည်သည့်အချိန်က စတင်ခဲ့သည်ကို ပြောရန် ခက်ခဲလှသော်လည်း ထိုထိုကျမ်းဂန်များ၌ လာရှိချက်များကို ဖော်ပြရလျှင်—

၁။ ဘုရားအလောင်း ကုရုမင်းက ဆင်တော်ကို ပုဏ္ဏားတို့အား ရေစက်ချ လှူဒါန်းပုံကို စရိယာပိဋကအဋ္ဌကထာ ၃၈ နှင့် ဇာတ်အဋ္ဌကထာ၊ ဒုတိယတွဲ ကုရုဓမ္မဇာတ်တော် ၃၃၄ ၌လည်းကောင်း၊

၂။ ဘုရားအလောင်း ဝေဿန္တရာမင်းက ဆင်ဖြူတော်ကို ကလိင်္ဂတိုင်းသား ပုဏ္ဏားတို့အား လည်းကောင်း၊ သားတော်ဇာလီနှင့် သမီးတော်ကဏှာဇိန်တို့ကို ဇူဇကာပုဏ္ဏားအား လည်းကောင်း၊ မိဖုရား မဒ္ဒီဒေဝီကို ပုဏ္ဏားယောင်ဆောင်သော သိကြားမင်းအား လည်းကောင်း ရေစက်ချ ပေးလှူဒါန်းပုံများကို စရိယာပိဋကအဋ္ဌကထာ၊ (၈၂၊ ၉၃၊ ၉၆) နှင့် ဇာတ်အဋ္ဌကထာ၊ သတ္တမတွဲ ၂၅၂ ၌ လည်းကောင်း၊

၃။ ဗိမ္ဗိသာရမင်းကြီးက ဝေဠုဝန်ကျောင်းတော်ကို ဘုရားရှင်အား ရေစက်ချလှူဒါန်းပုံကို ဗုဒ္ဓဝံသ အဋ္ဌကထာ ၂၅၊ အပဒါနအဋ္ဌကထာ၊ ပထမတွဲ ၁၀၀၊ ဇာတ်အဋ္ဌကထာ၊ ပထမတွဲ ၉၈ တို့၌ လည်းကောင်း၊

၄။ အနာထပိဏ္ဍိက (အနာထပိဏ်) သူဌေးကြီးက ဇေတဝန်ကျောင်းတော်ကို ဘုရားရှင်အား ရေစက်ချ လှူဒါန်းပုံကို အပဒါနအဋ္ဌကထာ၊ ပထမတွဲ ၁၀၉၊ ဇာတ်အဋ္ဌကထာ ပထမတွဲ ၁၀၉ တို့၌ လည်းကောင်း၊

၅။ နန္ဒိယသူကြွယ်က ဘုရားရှင် ဓမ္မစကြာတရားတော် ဟောတော်မူရာ မိဂဒါဝုန်တော၊ ဣသိပတန မဟာဝိဟာရကျောင်းတိုက်ကြီးအတွင်း၌ တိုက်ခန်းလေးခုတို့ဖြင့် တန်ဆာဆင်အပ်သော မုခ်ထွက်လေးခုရှိသော ကျောင်းကို ဘုရားအမှူးရှိသော ရဟန်းအပေါင်းအားရေစက်ချလှူဒါန်းပုံကို ဓမ္မပဒအဋ္ဌကထာ၊ ဒုတိယတွဲ ၁၉၀၊ ဝိမာနဝတ္ထုအဋ္ဌကထာ၊ ၂၀၄ တို့၌လည်းကောင်း၊

၆။ စိတ္တသူကြွယ်က မိမိ၏ဥယျာဉ်ကို သံဃာရာမအဖြစ် မဟာနာမ်မထေရ်အား ရေစက်ချလှူဒါန်းပုံကို ဓမ္မပဒအဋ္ဌကထာ၊ ပထမတွဲ ၃၂၇ ၌လည်းကောင်း ဖော်ပြပါရှိပါသည်။



အမှတ် (၃၂)

ဘုရားပန်းတင်၊ လှူပန်းဆင်၊ စိတ်သွင် ဘယ်သို့ ခြားသနည်း?

မေး ။ ။ အရှင်ဘုရား . .

ရှစ်ပါးသီလ ဆောက်တည်ရာတွင် ပန်းပန်ခြင်း၊ နံ့သာလိမ်းခြင်းမှ ရှောင်ကြဉ်ရမည်ဟု ပြောဆိုပြီး ဘုရားမှာတော့ ပန်းမာလ်၊ အမွှေးနံ့သာများ လှူနေကြပါတယ်။ ဤနှစ်မျိုးဟာ ဘယ်လိုအဓိပ္ပါယ် ခြားနားပါသလဲဘုရား။

စိုးစိုး *(Daly City)*

ဖြေ ။ ။ ပန်းကို အမှီပြု၍ ဖြစ်ပေါ်လာတဲ့ စိတ်ချင်းက ခြားနားပါတယ်။ မိမိကိုယ်မှာ ပန်းပန်၊ အမွှေးနံ့သာ လိမ်းတဲ့အခါ မိမိကို လှစေလို၊ မွှေးကြိုင်စေလိုသော တဏှာရာဂအခြေခံတဲ့ အကုသိုလ်စိတ်တွေ ဖြစ်ပါတယ်။ မိမိမှာ ပန်ဆင်လိမ်းခြယ်ထားတဲ့ ပန်းနံ့သာကို အစွဲပြု၍ နှစ်သက်မှု၊ တပ်မက်မှု တဏှာရာဂတွေ ဖြစ်စေတယ်။ အဲဒါကြောင့် မိမိမှာလည်း တဏှာရာဂ မဖြစ်ရအောင်၊ သူတစ်ပါးတွေမှာလည်း တဏှာရာဂ မဖြစ်စေကြရလေအောင် ရှစ်ပါးသီလ ဆောက်တည်ရာတွင် ပန်းပန်ခြင်း၊ နံ့သာလိမ်းခြင်းမှ ရှောင်ကြဉ်ရခြင်း ဖြစ်တယ်။

ဘုရားမှာ(အား) ပန်းလှူခြင်း၊ အမွှေးနံ့သာလှူခြင်းက ဘုရားကို ကြည်ညိုသော ဘုရား၏ဂုဏ်တော်၌ ယုံကြည်သော သဒ္ဓါတရား အခြေခံတဲ့ ကုသိုလ်စိတ်တွေ ဖြစ်ပါတယ်။

အချုပ်ဆိုရသော် မိမိကိုယ်မှ ပန်းပန်ခြင်း၊ နံ့သာလိမ်းခြင်းသည် အကုသိုလ်စိတ်ဖြစ်၍ ဘုရားမှာ ပန်းလှူခြင်း၊ အမွှေးနံ့သာလှူခြင်းသည် ကုသိုလ်စိတ်ဖြစ်၏။ ဤသို့ ပန်းနံ့သာနဲ့ပတ်သက်ပြီး သုံးစွဲပုံ နှစ်မျိုး ခြားနားသောကြောင့် စိတ်နှစ်မျိုး ခြားနားသွားပါတယ်။



## အမှတ် (၃၃)

## လေးသင်္ချေကိန်း၊ ကမ္ဘာသိန်း၊ ဘယ်ကိန်းများသနည်း ?

မေး ။ ။ အရှင်ဘုရား . .

ဂေါတမဘုရားရှင်သည် ဒီပင်္ကရာ အစရှိသော နှစ်ကျိပ်လေးဆူသော ဘုရားရှင်တို့၏ အထံတော်မှ ဗျာဒိတ်ပန်ဆင်လျက်

လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်းတို့ပတ်လုံး ပါရမီများကို ဖြည့်ဆည်းတော်မူခဲ့ရပါသည်။ ထိုသို့ ဖြည့်ဆည်းခဲ့ရာတွင် လေးသင်္ချေအတွင်းမှာ ဘုရားရှင် ၉ ဆူ[၁၂] တို့သာ ပွင့်တော်မူခဲ့ကြ၍ ကမ္ဘာတစ်သိန်းအတွင်းမှာတော့ ၁၅ ဆူ[၁၃] သော ဘုရားရှင်တို့ ပွင့်တော်မူခဲ့ကြပါသည်။

လေးသင်္ချေအတွင်းဝယ် ပွင့်တော်မူခဲ့ကြသော ဘုရားရှင်တို့ နည်းပါးလှ၍ ကမ္ဘာတစ်သိန်း အတွင်းဝယ် ပွင့်တော်မူခဲ့ကြသော ဘုရားရှင်တို့က များသောကြောင့် 'ကာလအတိုင်းအတာအရ လေးသင်္ချေက ရှည်ကြာသလော၊ သို့မဟုတ် ကမ္ဘာတစ်သိန်းက ရှည်ကြာသလော သိလိုပါသည်ဘုရား။

ဦးဂရုမွေ၊ ကုသလကာရီကျောင်း (Fremont)

ဖြေ ။ ။ မဟာကမ္ဘာတို့၏ လေးသင်္ချေနှင့် မဟာကမ္ဘာတစ်သိန်းဟု စရိယာပိဋကအဋ္ဌကထာ၌ လာသောကြောင့် လည်းကောင်း၊ ကမ္ဘာတို့၏ အသင်္ချေယျပတ်လုံး ဘုရားရှင်တို့ ပွင့်တော်မမူကြကုန်ပြီ၊ ဘုရားရှင် ဆိတ်သုဉ်းခဲ့ပြီ၊ ဘုရားတည်းဟူသော အလင်းရောင်သည် ကွယ်ခဲ့လေပြီဟု ဗုဒ္ဓဝင်အဋ္ဌကထာ၌ လာသောကြောင့် လည်းကောင်း၊ ကမ္ဘာတစ်သိန်းထက် လေးအသင်္ချေ (လေးသင်္ချေ) က မနှိုင်းယှဉ်သာအောင် ကာလရှည်ကြာပါသည်။

၁၂ ဒီပင်္ကရာ၊ ကောဏ္ဍည၊ မင်္ဂလ၊ သုမန၊ ရေဝတ၊ သောဘိတ၊ အနောမဒဿီ၊ ပဒုမ၊ နာရဒ။

၁၃ ပဒုမုတ္တရ၊ သုမေဓာ၊ သုဇာတ၊ ပိယဒဿီ၊ အတ္ထဒဿီ၊ ဓမ္မဒဿီ၊ သိဒ္ဓတ္ထ၊ တိဿ၊ ဖုဿ၊ ဝိပဿီ၊ သိခီ ဝေဿဘူ၊ ကကုသန်၊ ကောဏာဂုံ၊ ကဿပ။

**စတုရော စ အသင်္ချေယေတိ ဥတ္တပိစ- သဒ္ဒေါ သမ္ပိဏ္ဍနတ္ထော။ မဟာကပ္ပါနံ စတုရော အသင်္ချေယျေ သတသဟဿေ စ မဟာကပ္ပေတိ အယံ ပေဟတ္ထ အတ္ထော။**

(စရိယာပိဋကဋ္ဌကထာ၊ ၁၂။)

**ကပ္ပာနံ အသင်္ချေယျံ ဗုဒ္ဓါ လောကေ န ဥပ္ပဇ္ဇိံသု။ ဗုဒ္ဓသုညော ဝိဂတဗုဒ္ဓါလောကော အဟောသိ။**

(ဗုဒ္ဓဝံသဋ္ဌကထာ၊ ၂၂၆။)

ဘုရားရှင် တစ်ဆူ တစ်ဆူ ပွင့်တော်မူဖို့ရာ ပညာဓိကဘုရားလောင်းမှာ လေးသင်္ချေနှင့် ကမ္ဘာတစ်သိန်း၊ သဒ္ဓါဓိကဘုရားလောင်းမှာ ရှစ်သင်္ချေနှင့် ကမ္ဘာတစ်သိန်း၊ ဝီရိယာဓိက ဘုရားလောင်းမှာ တစ်ဆယ့်ခြောက်သင်္ချေနှင့် ကမ္ဘာတစ်သိန်း[၁၄] တို့ပတ်လုံး အသီးသီး ပါရမီတော်များကို ဖြည့်ကျင့်တော်မူကြရ၍ ကမ္ဘာအသင်္ချေ လွန်လေကြငြားသော်လည်း ပါရမီ မပြည့်ကြသေးလျှင် ပွင့်တော်မမူနိုင်ကြရကား ထိုလေးသင်္ချေအတွင်းမှာ ၉ ဆူသော ဘုရားရှင်တို့သာ ပါရမီပြည့်တော်မူ၍ ပွင့်တော်မူခဲ့ကြပြီး ကမ္ဘာတစ်သိန်းအတွင်းမှာတော့ ပါရမီပြည့်တော်မူကြသော ၁၅ ဆူသော ဘုရားရှင်တို့ ပွင့်တော်မူခဲ့ကြသည်ဟု မှတ်ယူရပါမည်။ ကမ္ဘာတစ်သိန်းက လေးအသင်္ချေထက် ကာလကြာမြင့်တာတော့ မဟုတ်ပါ။

ဂေါတမဘုရားရှင်အား ဗျာဒိတ်ပေးတော်မူခဲ့ကြသော နှစ်ကျိပ်လေးဆူသော ဘုရားရှင်တို့တွင်—

[၁၄]ဗုဒ္ဓါနံ့ အာနန္ဒ ဟေဋ္ဌိမပရိစ္ဆေဒေန စတ္တာရိ အသင်္ချေယျာနိ ကပ္ပသတသဟဿဉ္စ၊ မဇ္ဈိမပရိစ္ဆေဒေန အဋ္ဌ အသင်္ချေယျာနိ ကပ္ပသတသဟဿဉ္စ၊ ဥပရိမပရိစ္ဆေဒေန သောဠသ အသင်္ချေယျာနိ ကပ္ပသတသဟဿဉ္စ။ ဧတေ စ ဘေဒါ ပညာဓိက သဒ္ဓါဓိက ဝီရိယာဓိက ဝသေန ဉာတဗ္ဗာ။ (သုတ္တနိပါတအဋ္ဌကထာ ပဌမတွဲ ခဂ္ဂဝိသာဏသုတ်အဖွင့် (၄၃)၊ စရိယာပိဋကအဋ္ဌကထာ (၃၂၀)။

ကောဏ္ဍညဘုရားရှင်သည် တစ်ဆယ့်ခြောက် အသင်္ချေနှင့် ကမ္ဘာတစ်သိန်း၊

မင်္ဂလဘုရားရှင်သည် တစ်ဆယ့်ခြောက် အသင်္ချေနှင့် ကမ္ဘာတစ်သိန်း၊

သောဘိတဘုရားရှင်သည် လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်း၊

အနောမဒဿီဘုရားရှင်သည် တစ်ဆယ့်ခြောက် အသင်္ချေနှင့် ကမ္ဘာတစ်သိန်း၊

နာရဒဘုရားရှင်သည် လေးအသင်္ချေနှင့် ကမ္ဘာတစ်သိန်းတို့ ကာလပတ်လုံး ပါရမီဖြည့်ကျင့်တော်မူခဲ့ကြရသည်။

နောင်ပွင့်တော်မူမည့် မေတ္တေယျဘုရားရှင်သည်လည်း တစ်ဆယ့်ခြောက် အသင်္ချေနှင့် ကမ္ဘာတစ်သိန်းတို့ပတ်လုံး ပါရမီဖြည့်ကျင့်လျက် ဘုရားဖြစ်ရမည်။

**သော (ကောဏ္ဍညော) ပန ဘဂဝါ သောဠသအသင်္ချေယျံ ကပ္ပာနဉ္စ သတသဟဿံ ပါရမိယော ပူရေတွာ ဗောဓိဉာဏံ ပရိပါစေတွာ— (ဗုဒ္ဓဝံသဋ္ဌကထာ၊ ၁၆၀။)**

**မင်္ဂလော ပန လောကနာယကော ကပ္ပသတသဟဿာဓိကာနိ သောဠသ အသင်္ချေယျာနိ ပါရမိယော ပူရေတွာ — (ဗုဒ္ဓဝံသဋ္ဌကထာ၊ ၁၇၀။)**

**သောဘိတော နာမ ဗောဓိသတ္တော ကပ္ပသတသဟဿာဓိကာနိ သောဠသ အသင်္ချေယျာနိ ပါရမိယော ပူရေတွာ — (ဗုဒ္ဓဝံသဋ္ဌကထာ၊ ၁၉၉။)**

**အနောမဒဿီ ဘဂဝါ သောဠသ အသင်္ချေယျာနိ ကပ္ပသတသဟဿဉ္စ ပါရမိယော ပူရေတွာ — (ဗုဒ္ဓဝံသဋ္ဌကထာ၊ ၂၀၅။)**

သော (နာရဒေါ) စတ္တာရိ အသင်္ချေယျာနိ ကပ္ပသတသဟ ဿနွ ပါရမိယော ပူရေတွာ — (ဗုဒ္ဓဝံသဋ္ဌကထာ၊ ၂၁၇။)

မေတ္တေယျော ဗောဓိသတ္တော ဟေဠာ ဝုတ္တနယေန ပုဗ္ဗဗုဒ္ဓါနံ သန္တိကေ ဗျာကရဏံ လဘမာနော ကပ္ပသတသဟဿာဓိကေ သောဠသ အသင်္ချေယျေ ပါရမိယော ပူရေန္တော —(အနာဂတဝံသဋ္ဌ ကထာ၊ ၁၅၃။)

ထိုအဋ္ဌကထာတို့၌ လာသော စကားများကို ထောက်ဆလျှင်လည်း လေးအသင်္ချေက ကမ္ဘာတစ်သိန်းထက် ကာလရှည်လျားကြောင်း ထင်ရှားလှတော့သည်။



အမှတ် (၃၄)

ဆွေမျိုး၏ ဝန်တိုစေးနဲ လိမ်ညာမှုကြောင့် အလှူရှင်ဒါနပြဿနာ။

မေး ။ ။ အရှင်ဘုရား . .

အိမ်သစ်တက်မင်္ဂလာ အလှူပွဲတစ်ခုတွင် ရှမ်း တို့ဟူးသုပ်ဖြင့် ဧည့်ခံကျွေးမွေး၏။ တို့ဟူးသုပ်ထားသည်မှာ စားမကောင်းသောကြောင့် အချဉ်ရည် တောင်းမိပါသည်။ အချဉ်ရည် လုံလောက်စွာရှိ၏။ အလှူရှင်၏ ဆွေမျိုးဉာတိက သဝန်တို မနာလို ကပ်စေးနှဲကာ အချဉ်ရည်ကို သိုဝှက်ထား၍ မရှိဘူး၊ မသိဘူး၊ လိမ်ညာပြောကြောင့် (က) အလှူရှင်၏ အလှူဒါနမြောက်ပါသလား? (ခ) အလှူ၏ အနက်

အစိပ္ပါယ်၊ (ဂ) မင်္ဂလာယူချိန်တွင် မင်္ဂလာ ရနိုင်ပါမည်လော?
(ဃ) အောင်ခြင်း ရှစ်ပါး မင်္ဂလာဆိုသည်မှာ အဘယ်နည်း?

လေးစားဂါရဝဖြင့်
ဒီဇင်ဘာထွေးထွေး[ဒီဇင်ဘာမြေ] (San Jose)

ဖြေ ။ ။ ဒီဇင်ဘာထွေးထွေး၏ မေးခွန်းများမှာ—

(က) ဆွေမျိုးဉာတိက သဝန်တို မနာလို ကပ်စေးနှဲကာ အချဉ်ရည်ကို သိုဝှက်ထား၍ ရှိလျက်နှင့် မရှိဘူး၊ မသိဘူးဟု လိမ်ညာ ပြောဆိုခြင်းကြောင့် အလှူရှင်၏ အလှူဒါနမြောက်၊ မမြောက်

(ခ) အလှူဒါန၏ အနက်အစိပ္ပါယ်

(ဂ) မင်္ဂလာယူချိန်တွင် မင်္ဂလာရနိုင်ပါမည်လော ?

(ဃ) အောင်ခြင်း ရှစ်ပါး . . . တို့ ပါဝင်၏။

အမှတ် (က) အဖြေက— ဆွေမျိုးဉာတိက သဝန်တို မနာလို ကပ်စေးနှဲကာ အချဉ်ရည်ကို သိုဝှက်ထားခြင်းမှာ ငါတို့နှင့်သာ ဆိုင်တယ်၊ ငါတို့သာ ပိုင်တယ်၊ အခြားသူတို့အား မပေးလိုတဲ့ လာဘမစ္ဆရိယ ဖြစ်ကာ အချဉ်ရည်ရှိလျက်နှင့် မရှိဘူး၊ မသိဘူး လိမ်ညာပြောခြင်းကြောင့် ယင်းဆွေမျိုးမှာသာ မုသာဝါဒကံထိုက်သော်လည်း အလှူရှင်မှာကား အလှူဒါနမြောက်ပါသည်။ အလှူရှင်က ဆွေမျိုး၏ လိမ်ညာပြောဆိုခြင်းကို သိလျက်နှင့် မသိကျိုးကျွန်နေပါမူကား လွတ်လွတ်စွန့်ကြဲသော အလှူဒါနမျိုး မဖြစ်နိုင်ပါ။

အမှတ် (ခ) အဖြေက— အလှူဒါန၏ အနက်အစိပ္ပါယ်[၁၁] မှာ မိမိ ပေးလှူလိုသော၊ မိမိ ကျွေးလိုသော ပစ္စည်းအပေါ်၌ တွယ်တာ

[၁၁] စီဝရာဒီသု စတူသု ပစ္စယေသု၊ ရူပါဒီသု ဝါဆသု အာရမ္မဏေသု၊ အန္နာဒီသု ဝါ ဒသသု ဒါနဝတ္ထူသု တံ တံ ဒေန္တဿ တေသံ တေသံ ဥပ္ပါဒနတော ပဋ္ဌာယ ပုဗ္ဗကာလေ ပရိစ္စာဂကာလေ ပစ္ဆာ သောမနဿ စိတ္တေန အနုဿရ ရဏကာလေ စာတိ တီသု ကာလေသု ပဝတ္တာ စေတနာ ဒါနမယံ ပုညကိရိယဝတ္ထု နာမ။ (အဋ္ဌသာလိနီ အဋ္ဌကထာ၊ ၂၀၁- ၂၀၂။)

တပ်မက်သည့် လောဘကို ပယ်သတ်လျက် မလှူမီမှာရော လှူဆဲ၊ လှူပြီးအခါတို့မှာပါ ဝမ်းမြောက်ဝမ်းသာ ပေးလှူကြောင်း စေတနာ ဖြစ်ပါတယ်။ မလှူမီ၊ လှူဆဲ၊ လှူပြီး ကာလသုံးပါးတို့မှာ ဝမ်းမြောက် ဝမ်းသာ လှူဒါန်းနိုင်ခြင်းကို စေတနာသုံးတန် ပြဋ္ဌာန်းသောအလှူဟု ခေါ်ပါတယ်။

အမှတ် (ဂ) အဖြေက— မင်္ဂလာဆိုတာ မကောင်းမှုကို ပယ် သတ်ကြောင်း၊ တိုးတက်ကြီးပွားကြောင်း (ကုသိုလ်)တရားကို ခေါ်ပါ သည်။ ကျွေးမွေးဆဲအခါ အလှူရှင်၏သန္တာန်မှာ ဒါနမင်္ဂလာကို ရနေပါ သည်။

အမှတ် (ဃ) အဖြေက— ရန်သူများကို အောင်မြင်မှုနှင့်ပတ်သက် ၍ ပိဋကတော်၌လာသော ဘုရားရှင်၏ အောင်ခြင်းရှစ်ပါးမှာ. . .

၁။ မာရ်နတ်မင်းကို အောင်ခြင်း။

၂။ အာဠဝကဘီလူးမင်းကို အောင်ခြင်း။

၃။ နာဠာဂီရိဆင်မင်းကို အောင်ခြင်း။

၄။ အင်္ဂုလိမာလ ခိုးသူကြီးကို အောင်ခြင်း။

၅။ မိန်းမယုတ် စိဉ္စမာဏ (စိဉ္စမာဏဝိကာ) ကို အောင်ခြင်း။

၆။ သစ္စကပရိဗိုဇ်ကို အောင်ခြင်း။

၇။ နန္ဒောပနန္ဒနဂါးမင်းကို အောင်ခြင်း။

၈။ ဗကဗြဟ္မာမင်းကို အောင်ခြင်း။

ဤရှစ်ပါးကို အပြင်ရန်သူရှစ်ဦးကို အောင်တော်မူသောကြောင့် 'အပြင်အောင်ခြင်းရှစ်ပါး'ဟူ၍လည်း ခေါ်ပါသည်။

**အောင်ခြင်းရှစ်ပါး**နှင့် ပတ်သက်၍ အောင်မြင်ပုံကို ထင်ထင် ရှားရှား သဒ္ဓါပွားနိုင်ရန် အမရပူရ မဟာဂန္ဓာရုံဆရာတော်၏ **'အောင် ခြင်းရှစ်ပါး သစ္စာပြုဆုတောင်း'** ကိုပါ ကြည့်ရှုနိုင်သည်။

အောင်ခြင်းရှစ်ပါး သစ္စာဆိုဆုတောင်း

မာရံ ယက္ခံ ဂဇံ စောရံ၊ စိဉ္စမာဏဝ္ဇ သစ္စကံ။

နာဂံ ဗကံ ဇိနော ဇိနီ၊ ဟောတုမေ ဇယမင်္ဂလံ။[၅၆]

**ဇိနော**- အောင်သူတကာတို့၏၊ အထွတ်၊ တစ်မွတ်ဥသျှောင်၊ ဘုန်းခေါင်ဘုန်းဖျား၊ ငါတို့ မြတ်စွာဘုရားသည်၊ **မာရဉ္စ**- ဂီရိမေခလာ၊ ဆင်မဟာကို၊ လျှင်စွာတက်စီး၊ ပလ္လင်နီးဝယ်၊ လေကြီးမိုးကြီး၊ ပြာပူမီးနှင့်၊ မှောင်ကြီးတစ်တန်၊ ခဲလုံ့မကြွင်း၊ ပစ်ခတ်ခွင်းလျက်၊ အချင်းသိဒ္ဓတ်၊ ပလ္လင်မြတ်မှ၊ အမြန်ထလော့၊ စိမ်းမြည်ိုလွင်၊ ဗောဓိပင်နှင့်၊ ပလ္လင်တော်ကား၊ ထင်အရှားပင်၊ သင်ကားမဆိုင်၊ ငါသာပိုင်ဟု၊ စွဲကိုင်လက်နက်၊ ရဲစစ်မက်ဖြင့်၊ အောက်ထက်ဝန်းရံ၊ သောသောညံအောင်၊ အသံဟစ်ကြွေး၊ မယဉ်ကျေးသည့်၊ ရန်ဘေးတစ်သင်း၊ မာရ်နတ်မင်း[၅၇] ကို လည်းကောင်း၊

**ယက္ခဉ္စ**- ခဲမိုး လုံ့မိုး၊ မီးကျီးမိုးကို၊ ရွာဖြိုးသွန်းချ၊ ယမ်းမီးကျသို့၊ **ကောဓ**[၅၈] ပြင်းထန်၊ ငါ့ဗိမာန်မှ၊ အမြန်ထွက်သွား၊ နှင်ရက်အားသည့်၊ တရားကင်းကွာ၊ ကြမ်းကြုတ်စွာသား၊ အာဠဝက၊ **တေဇ**[၅၉] ထန်ပြင်း၊ **ဘီလူးမင်း**[၆၀] ကိုလည်းကောင်း၊

**ဂဇဉ္စ**- အစွယ်ထက်ချွန်၊ အရက်မွန်အောင်၊ အလွန်ဆိုးညစ်၊ အမုန်ယစ်၍၊ ရှင်ချစ်သေဌ်နင်း၊ သုံးလူ့မင်းကို၊ အတင်းအကြပ်၊ ဝိညာဉ်ပြတ်အောင်၊ ထိုးသတ်အံ့ငှာ၊ ရှေးရှုလာသည့်၊ နာဠာဂီရိ တောင်ရှိန်းနီး၊ **ဆင်ပြောင်ကြီး**[၆၁] ကို လည်းကောင်း၊

---

[၅၆] အရှင်ကုဏ္ဍလာဘိဝံသ ဟောကြားအပ်သော အောင်ခြင်းရှစ်ပါး တရားတော်

[၅၇] ဗုဒ္ဓဝံသဋ္ဌကထာ နိဒါနကထာ၊ ဂေါတမဗုဒ္ဓဝံသဝဏ္ဏနာ (၁၀၊ ၃၄၀)

[၅၈] အမျက်ထွက်ခြင်း၊ အမျက်ဒေါသ

[၅၉] တန်ခိုး

[၆၀] သဂါထာဝဂ္ဂသံယုတ်ပါဠိတော် အာဠဝကသုတ် (သံ၊ ၁၊ ၂၁၆- ၂၁၇။)

[၆၁] ဓမ္မပဒအဋ္ဌကထာ ပထမတွဲ ဒေဝဒတ္တဝတ္ထု (၉၀)

**စောရဋ္ဌ**- ခရီးဝေးကွာ၊ ယူဇနာကို၊ လျင်စွာပြေးစွမ်း၊ တောမြိုင်တန်းက၊ လူဖမ်း လက်ဖြတ်၊ သေအောင်သတ်၍၊ နန်းရပ်ကကျော်၊ မွေးမယ်တော်ကို၊ မြင်သော်စိုက်စိုက်၊ ဓားဖြင့်လိုက်၍၊ မကိုင်မှုထွတ်တင်၊ ဘုရားရှင်ကို၊ အသင် ရှောင်ဝေး၊ ဘယ့်ကြောင့်ပြေးဟု၊ ဓားရေးပြကာ၊ သတ်မည့်လာသား၊ လွန်စွာဆိုးဘိ၊ အင်္ဂုလိခေါ်၊ သူခိုးကျော်[၆၂] ကိုလည်းကောင်း၊

**စိဉ္စမာဏဝိကာ**- အလွန်ကောက်ကျစ်၊ တိတ္ထိညစ်တို့၊ အပြစ်ရှာကြံ၊ မကောင်းဉာဏ်ဖြင့်၊ စီမံဆုံးဖြတ်၊ စေလွှတ်လတ်၍၊ ပရိသတ်ထဲ၊ အရှက်ကွဲအောင်၊ စွပ်စွဲတတ်စွာ၊ စိဉ္စမာဟု၊ သညာဖော်ထုတ်၊ မိန်းမယုတ်[၆၃] ကိုလည်းကောင်း၊

**သစ္စက**- မစင်မဖြူ၊ မိစ္ဆာယူဖြင့်၊ မည်သူ့ကိုမျှ၊ မာန်မချဘဲ၊ ဝါဒချင်းပြိုင်၊ သူကပိုင်အောင်၊ အနိုင်လွှမ်းမိုး၊ အယူဆိုးသည့်၊ တိတ္ထိမျိုးမိုက်၊ သစ္စကပရိဗိုဇ်[၆၄] ကိုလည်းကောင်း၊

**နာဂ**- ဒေါသလွှမ်းမိုး၊ မျက်စောင်းထိုးက၊ အရိုးကျေမွ၊ ဖွဲပြာကျသို့၊ တေဇထန်ပြင်း၊ နန္ဒောပနန္ဒနဂါးမင်း[၆၅] ကိုလည်းကောင်း၊

**ဗက**- ဉာဏ်မြင်ကင်းကွာ၊ နိစ္စသာဟု၊ မိစ္ဆာလွှမ်းမိုး၊ အယူဆိုးသည့်၊ တန်ခိုးအရောင်၊ ထိန်ပြောင်ညီးညီး၊ ဗကဗြဟ္မာကြီး[၆၆] ကိုလည်းကောင်း၊

---

[၆၂] မဇ္ဈိမပဏ္ဏာသပါဠိတော် အင်္ဂုလိမာလသုတ် (၃၀၀-၃၀၂)၊ မဇ္ဈိမပဏ္ဏာသအဋ္ဌကထာ (၂၂၆-၂၃၇)

[၆၃] ဓမ္မပဒအဋ္ဌကထာ ဒုတိယတွဲ စိဉ္စမာဏဝိကာဝတ္ထု (၁၁၆-၁၁၇)

[၆၄] မူလပဏ္ဏာသပါဠိတော် စူဠသစ္စကသုတ် (၂၈၉-၂၉၉)၊ ယင်းအဋ္ဌကထာ (၁၆၉-၁၈၄)၊ ယင်းပါဠိတော် မဟာသစ္စကသုတ် (၂၉၉-၃၁၇)၊ ယင်းအဋ္ဌကထာ (၁၈၅-၁၉၆)

[၆၅] ထေရဂါထာအဋ္ဌကထာ ဒုတိယတွဲ သဠိနိပါတ် (၅၀၀-၅၀၄)၊ အပဒါနအဋ္ဌကထာ ပထမတွဲ ဗုဒ္ဓဝင် (၂၇၇-၂၈၀)၊ ဝိသုဒ္ဓိမဂ်အဋ္ဌကထာ ဒုတိယတွဲ ဣဒ္ဓိဝိဓနိဒ္ဒေသ (၂၈-၃၀)

[၆၆] သဂါထာဝဂ္ဂသံယုတ်ပါဠိတော် ဗကဗြဟ္မသုတ် (သံ၊ ၁၊ ၁၄၄-၁၄၆)

အဇိနိ- ဒိဋ္ဌိကိုချ၊ ဒေါသကိုပယ်၊ မာန်စွယ်ကိုချိုး၊ သဒ္ဓါဖြိုးလျက်၊ ရှိခိုးတုပ်ကွ၊ ပြားပြားကျအောင်၊ ဆုံးမသွန်သင်၊ အောင်ပွဲတော် ယဉ်ခဲ့လေပြီ။ (ဧတေနေ သစ္စဝဇ္ဇေန- အောင်ခြင်းရှစ်ချက်၊ ဂုဏ်တော်နက်ကို၊ နှုတ်မြွက်ဖော်ကြား၊ ဤသစ္စာစကားကြောင့်)၊ **မေ**- မအောင်သေးခင်၊ အောင်ကြွေးတင်၍၊ အောင်မြင်ရန်မျှော်၊ တပည့်တော်၏၊ (ဝေါ တုမှာကံ- မအောင်သေးခင်၊ အောင်ကြွေးတင်၍၊ အောင်မြင်ရန်မျှော်တောင်း၊ သင် တရားနာပရိသတ်အပေါင်း၊ သူတော်ကောင်းတို့၏)၊ **ဇယမင်္ဂလံ**- အောင်ရန်အတိတ်၊ အောင်နိမိတ်နှင့်၊ အောင်ဘိသိက်သွင်း၊ အောင်ဟိတ်ကျင်းလျက်၊ အောင်ခြင်းစဉ်ကာ၊ မင်္ဂလာသည်၊ ဟောတု- တက်သစ်နေဝန်း၊ ထွန်းသစ်လစန်း၊ ပွင့်သစ်ပန်းသို့၊ ဆန်းအဖုံဖုံ၊ စခန်းစုံအောင်၊ အစွမ်းကုန်မသွေ၊ ဖြစ်ပါစေသတည်း။



## အမှတ် (၃၅)
## ရဟန်းမောင်ရှင်၊ ကားမောင်းလျှင်၊ ပြစ်ထင် အဘယ်နည်း ?

မေး ။ ။ အရှင်ဘုရား. . .

အမေရိကန် မြို့ကြီးများတွင် မြန်မာပြည်မှ ရဟန်းတော်အချို့ ကားမောင်းနေကြသည်ကို တွေ့မြင်နေရပါသည်။ ကားမောင်းပေးမည့်သူမရှိ၍ ကိုယ်တိုင် ကားမောင်းနေကြသည်ကို တပည့်တော်များ လက်ခံပါသည်။ သို့သော် ဝိနည်းတော်အရ ရဟန်းတော်များ ကားမောင်းခြင်းသည် အပြစ်ရှိ၊ မရှိ ရှင်းပြတော်မူပါဘုရား။

သိချင်သူတစ်ဦး *(Daly City)*

**ဝိနည်းတော်အရ၊ ကားမောင်းက၊ ပြစ်ရမထင်ပါ။**

ဖြေ ။ ။ ဝိနည်းတော်အရ ရဟန်းတော်များ ကားမောင်းခြင်းသည် သတ္တဝါများကို ဆင်းရဲစေသော နွားလှည်း၊ မြင်းလှည်း မောင်းခြင်းမျိုး မဟုတ်၍ အပြစ်ရှိသည်ဟု မဆိုနိုင်ပါ။



အမှတ် (၃၆)

**PEPSI, MATTRESS သုံးသည့်တွက်၊ ပြစ်ချက် ရှိမည်လော ?**

*မေး ။ ။ အရှင်ဘုရား . .*

*ဝိကာလဘောဇနာဟူသော နေ့လွဲညစာစားခြင်းမှ ရှောင်ကြဉ်ရာ၌ Pepsi စသည့် အချိုရည်များကို သောက်ခြင်းသည် အပြစ်ရှိပါသလား? ဥစ္စာသယန မဟာသယနဟူသော မြင့်သောနေရာ မြတ်သောနေရာတို့၌ နေထိုင်ခြင်းမှ ရှောင်ကြဉ်ရာ၌ ခုတင်နှင့်အိပ်ခြင်း၊ Mattress နှင့် အိပ်ခြင်းတို့သည် အပြစ်ရှိပါသလားဘုရား?*

*Mabel (San Jose)*

ဖြေ ။ ။ ဝိကာလဘောဇနသိက္ခာပုဒ်အရ နေ့လွဲညစာ စားခြင်းမှ ရှောင်ကြဉ်မှုသည် (ယာဝကာလိက) အရုဏ်တက်သည်မှစ၍ မွန်းတည့်တိုင်အောင်သော ကာလအတွင်းဝယ် သုံးဆောင်ကောင်းသော ဆွမ်းခဲဖွယ်ဘောဇဉ်တို့နှင့်သာ သက်ဆိုင်၍ (ယာမကာလိက) ယနေ့ အရုဏ်တက်သည်မှစ၍ လာမည့် အရုဏ်မတက်မီ မိုးသောက်ယံတိုင်အောင်

ကာလအတွင်းဝယ် သုံးဆောင်ကောင်းသော အဖျော်ရည်မျိုးနှင့် မသက်ဆိုင်ပါ။ ထို့ကြောင့် အဖျော်ရည်မျိုး၌ ပါဝင်သော Pepsi စသော အချိုများကို သောက်ခြင်းသည် အပြစ်မရှိပါ။ ဥစ္စာသယန- မြင့်သော နေရာဆိုသည်မှာ အခြေတစ်တောင့်ထွာ (၂၇ လက်မ)ထက် မြင့်သော ခုတင်ညောင်စောင်းများ ဖြစ်၍ မဟာသယန- မြတ်သောနေရာဆို သည်မှာ လက်လေးသစ်ထက် အမွေးရှည်သော သားမွေးကောဇော၊ ခြသေ့်၊ သစ်၊ ကျားရုပ်များဖြင့် အဆန်းတကြယ် ရက်လုပ်ထားသော သားမွေးအခင်း၊ ပန်းပြောက်တို့ဖြင့် ခြယ်သထားသော သားမွေးအခင်း၊ ရွှေခြည်ထိုး ငွေခြည်ထိုးအခင်း၊ လဲဝါမွေ့ရာ၊ ဂွမ်းမွေ့ရာများ ဖြစ်ပါသည်။ သို့ဖြစ်၍ အခြေတစ်တောင့်ထွာအောက် နိမ့်သော ခုတင်၌ အိပ်ခြင်း၊ သာမန် mattress ၌ အိပ်ခြင်းတို့သည် အပြစ်မရှိပါ။



## အမှတ် (၃၇)

## ဝတ်ပြုနှစ်မျိုး၊ စဉ်လာကိုး၊ ကွာရိုးရှိသလော ?

မေး ။ ။ အရှင်ဘုရား. . .

တပည့်တော်သည် အိပ်ရာဝင်ခါနီးတိုင်း ဘုရား စင်ရှေ့တွင် ဝတ်ပြုပြီးမှ အိပ်ပါသည်။ တစ်ခါတစ်ရံ ဧည့်သည်များ စကား ပြောနေကြ၍ အိပ်ရာတွင်ပင် ဘုရားဝတ်ပြုပြီး အိပ်ပါသည်။ ယင်းဝတ်ပြုမှုနှစ်မျိုး၏ ကုသိုလ်ရမှုခြင်း မည်သို့ ကွာခြားသည်ကို ရှင်းလင်းပြတော်မူပါဘုရား။

*Tina (San Francisco)*

ဆိတ်ငြိမ်ရာကား၊ စိတ်တည်ငြား၊ တိုးပွားကုသိုလ်မျိုး။

ဖြေ ။ ။ ဘုရားဝတ်ပြုမှုဟူသည် ဘာဝနာလုပ်ငန်းဖြစ်၍ စိတ်တည်ကြည်မှုကို ဖြစ်စေနိုင်သောနေရာနှင့် စိတ်ကြည်နူးမှု သဒ္ဓါတရားကို တိုးပွားစေနိုင်သော အာရုံတို့ လိုအပ်ပါသည်။ နေရာငြိမ်သက်မှု မရှိပါက စိတ်တည်ငြိမ်မှုကို မရနိုင်ပါ။ ပြုစရာအာရုံ မထင်ရှားပါကလည်း စိတ်ကြည်နူးမှု သဒ္ဓါတရား မတိုးပွားနိုင်ပါ။ ဘုရားစင်၊ ဘုရားခန်းတွင် မြတ်စွာဘုရား၏ ကိုယ်တော်စား ရုပ်ပွား ဆင်းတုတော် သို့မဟုတ် ရုပ်ပုံတော်ကားများရှိ၍ သဒ္ဓါတရား တိုးပွားလျက် စိတ်ကြည်နူးမှုများကို ရရှိနိုင်ပါသည်။ သို့ဖြစ်၍ ဆိတ်ငြိမ်သောအချိန်၌ ဘုရားရှင်ရှေ့တွင် ဝတ်ပြုမှုက ကုသိုလ် ပိုမိုရရှိနိုင်ပါသည်။



အမှတ် (၃၈)

ဆွမ်းတော်တင်ခါ၊ ရွတ်စရာ၊ ကျဉ်းသာပြစေချင်။

မေး ။ ။ အရှင်ဘုရား . .

ဘုရားဆွမ်းတော်တင်ရာ၌ မည်သို့ ရွတ်ဆိုပူဇော်ရာ၌ မည်သို့ ရွတ်ဆိုပူဇော်ရမည်ကို အကျဉ်းချုပ် ဖော်ပြတော်မူပါဘုရား။

သင်းမာ (*Union City*)

ပြေ ။ ။ ဘုရားဆွမ်းတော်တင်ရာ၌ ဖြစ်စေ၊ ဆီမီး၊ ပန်း၊ ရေချမ်း စသည် တို့ကို ကပ်လှူပူဇော်ရာ၌ ဖြစ်စေ အဓိကအခြေခံသုံးချက်မှာ-

၁။ မိမိ လှူဒါန်းပူဇော်မည့်အရာကို ပြောဆို၍ လှူဒါန်းရခြင်း။

၂။ မိမိ၏ရည်ရွယ်ချက်ကို ပြောကြားတောင်းဆိုရခြင်း။ (ဆုတောင်းရခြင်း)

၃။ မိမိပြုလုပ်သော ကောင်းမှု၏အဖို့ကို အမျှပေးဝေရခြင်းတို့ ဖြစ်၏။

အကျဉ်းချုပ်မှာ— ဘုန်းတော်အနန္တ၊ ကံတော်အနန္တ၊ ဉာဏ်တော် အနန္တနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားအား ဤမွန်မြတ်သော ဆွမ်းတော်ကို လှူဒါန်းဆက်ကပ်ပါ၏ အရှင်ဘုရား။

ဤဆွမ်းတော် လှူဒါန်းရသော ကောင်းမှုကြောင့် ဆင်းရဲခပ်သိမ်း ကင်းငြိမ်းရာ နိဗ္ဗာန်ကို လျင်မြန်စွာ မျက်မှောက်ပြုရပါလို၏ အရှင်ဘုရား။

ဤဆွမ်းတော် လှူဒါန်းရသော ကောင်းမှု၏အဖို့ကို မိဘဆရာ သမား အစထားလျက် များပြားလှစွာသော သတ္တဝါတို့အား အမျှပေးဝေ ပါ၏။ အမျှ ယူတော်မူကြပါကုန်လော့။ အမျှ အမျှ အမျှ . . . သာဓု သာဓု သာဓု။



အမှတ် (၃၉)

စိတ်ကျရောဂါ ဖြစ်သောခါ ကုမ်းလာနည်းရ ကုပါဘုရာ့။

*မေး ။ ။ အရှင်ဘုရား . .*

*အမေရိကန်နိုင်ငံတွင် လူအများမှာ Depression (စိတ်ကျရောဂါ) ဖြစ်သောအခါ စိတ်ရောဂါကုဆရာဝန်များနှင့် သွားရောက်တွေ့ဆုံပြီး ဆေးဝါးကုသမှုကို ခံယူရပါသည်။ ဗုဒ္ဓတရားတော်နည်းဖြင့် ထိုရောဂါများကို ကုသပေးနိုင်ပါကနည်းလမ်း ပေးသနားတော်မူပါဘုရား။*

*Brain (San Francisco)*

ဖြေ ။ ။ **လောကကြောင်းရင်း ဆင်ခြင်ခြင်း ဉာဏ်သွင်းထိန်းပေးပါ။**

စိတ်ဓာတ်ကျမှု၊ စိတ်အားငယ်မှု၊ စိတ်ညစ်မှု၊ စိတ်ပျက်မှု၊ စိတ်ဆင်းရဲမှု၊ ဝမ်းနည်းမှု စသည်ဖြင့် စိတ်မှာ ဖြစ်ပေါ်လာသော ဒုက္ခဟူသမျှကို **ဒေါမနဿ**ဟု ခေါ်သည်။ ယင်းဒေါမနဿသည် စိတ်ရောဂါဝေဒနာတစ်မျိုးပင် ဖြစ်သည်။ ထိုဝေဒနာမျိုးကို ကြာရှည်စွာ လက်ခံထားလျှင် မိမိအား ဒုက္ခ များစွာပေးနိုင်ပါသည်။ စီးပွားရေး၊ လူမှုရေး၊ ပညာရေး၊ မိသားစုရေး စသည်နှင့် ပတ်သက်၍ အဆင်မပြေမှုတွေကြောင့်ဖြစ်စေ၊ ပစ္စည်းဥစ္စာ ကွယ်ဝသော်လည်း ရတာမလို၊ လိုတာမရသောကြောင့်ဖြစ်စေ စိတ်ဆင်းရဲမှု၊ စိတ်အားငယ်မှု၊ စိတ်ဓာတ်ကျမှုဖြစ်ကြရသည်။

Depression (စိတ်ကျရောဂါ) အတွက် ဗုဒ္ဓတရားတော်အရ စိတ်ပြုပြင်နည်းမှာ အကြောင်းအားလျော်စွာ အတော်များများ ရှိပါသည်။ သူ့အကြောင်းနှင့်သူ ထိုက်တန်အောင် ပြုပြင်ပေးဖို့ လိုပါသည်။

F21.

အကြောင်းနှင့်လိုက်လျောသော လုံ့လဝီရိယ၊ ဆင်ခြင်ဉာဏ်လည်း ရှိရ ပါမည်။ ဥပမာ- စီးပွားရေး၊ အလုပ်အကိုင်နှင့်ပတ်သက်၍ မိမိ၏ ဝီရိယရော ဉာဏ်ပါ ပြည့်စုံပါလျက် ကံမကောင်း အကြောင်းမသင့်၍ ရည်ရွယ်ချက် မအောင်မြင်ခဲ့သော် စိတ်ဓာတ်မကျပါနှင့်၊ စိတ်အား မငယ်ပါနှင့်။ 'ကြိုးစားလျှင် ဘုရားဖြစ်' ဟူသော ဆိုရိုးစကားဖြင့် စိတ်အားတင်း၍ နောက်ထပ်တစ်ဖန် ကြိုးစားပါ။ မိသားစုရေး၊ လူမှုရေး စသော ပြဿနာတွေနှင့် ရင်ဆိုင်ရာတွင် အဆင်မပြေခဲ့သော် စိတ်မပျက်ပါနဲ့၊ လောကဓံမုန်တိုင်းကြောင့် စိတ်မလှုပ်ရှားပါနှင့်။ လောကဓံမုန်တိုင်းသည် သင်တစ်ယောက်တည်းကိုသာ ဝကွက်၍ ရိုက်ခတ်နေသည် မဟုတ်ပါ။ လောကဓံဆိုသည်မှာ လောကလူသားတိုင်း၊ သက်ရှိသတ္တဝါတိုင်း၌ တွေ့ကြုံနေရသည့် သဘာဝဓမ္မသာ ဖြစ်ပါသည်။

| | | |
|---|---|---|
| လာဘ | - | ပစ္စည်းဥစ္စာရခြင်း။ |
| အလာဘ | - | ပစ္စည်းဥစ္စာမရခြင်း။ |
| ယသ | - | အခြွေအရံ များခြင်း။ |
| အယသ | - | အခြွေအရံ မရှိခြင်း။ |
| နိန္ဒာ | - | ကဲ့ရဲ့ခံရခြင်း။ |
| ပသံသာ | - | ချီးမွမ်းခံရခြင်း။ |
| သုခ | - | ကိုယ်စိတ်ချမ်းသာခြင်း။ |
| ဒုက္ခ | - | ကိုယ်စိတ်ဆင်းရဲခြင်း။ |

ဤလောကဓံရှစ်ပါးတွင် ကောင်းသော လောကဓံလေးပါးနှင့် ကြုံတွေ့ရသောအခါ ဝမ်းသာရွှင်ပျ ဖြစ်နေခြင်း၊ မကောင်းသော လောကဓံလေးပါးနှင့် ကြုံတွေ့ရသောအခါ စိတ်အားငယ်၍ စိတ်ပျက်၊ စိတ်မချမ်းမသာ ဖြစ်နေခြင်းသည် လောကဓံကြောင့် စိတ်လှုပ်ရှားနေ

မှုပင် ဖြစ်၏။ ဝမ်းသာလွယ်သူသည် ဝမ်းနည်းလွယ်၍ ဝမ်းသာအားကြီး လွန်းသူသည် ဝမ်းနည်းအားကြီး လွန်းတတ်၏။ ကောင်းဆိုးနှစ်တန် မည်သည့်လောကဓံမျိုးနှင့် ကြုံတွေ့ရစေကာမူ 'လောကဓံဟူသည် လောက၌ ကြုံတွေ့နေရမည့် သဘောတရားပါတကား' ဟု ဆင်ခြင်၍ ကောင်းသောလောကဓံနှင့် ပတ်သက်၍လည်း ဝမ်းသာလွန်းမှု မဖြစ်ရလေအောင်၊ ဆိုးသောလောကဓံနှင့် ပတ်သက်၍လည်း ဝမ်းနည်းလွန်းမှု မဖြစ်ရလေအောင် ဉာဏ်ဖြင့် စိတ်လှုပ်ရှားမှုကို ထိန်းသိမ်းရမည်။ ထိန်းသိမ်းခြင်းဖြင့် စိတ်ကျရောဂါ (Depression) သည် သက်သာ ပျောက်ကင်းသွားနိုင်ပါသည်။



### အမှတ် (၄၀)
### ပုတီးစိပ်ခြင်း၊ ထိုင်မှတ်ခြင်း၊ ခြားခြင်း သိလိုပါ။

*မေး ။ ။ အရှင်ဘုရား . .*

*ပုတီးစိပ်ခြင်းနှင့် တရားထိုင်ခြင်းတို့၏ ကွာခြားပုံကို ရှင်းပြတော်မူပါဘုရား။*

*လင်းလင်း (San Jose)*

ဖြေ ။ ။ **ပုတီးစိပ်က၊ သမထ၊ ပြုကြ ထိုအရာ၊**

**ချာန်ရဖို့ပင်၊ လွယ်မထင်၊ စွမ်းအင် နလုစွာ။**

သမထ၊ ဝိပဿနာဟူ၍ ဘာဝနာနှစ်မျိုးရှိရာတွင် ပုတီးစိပ်ခြင်းသည် သမထဘာဝနာ၏ အရာမှာသာ အသုံးပြုလေ့ရှိပါသည်။

ဝိပဿနာဘာဝနာ၏ အရာမှာတော့ အသုံးပြုလေ့မရှိပါ။ သမထအရာမှာတောင် ဈာန်ရနိုင်လောက်သော သမာဓိမျိုးရဖို့ရန်ပင် ခဲယဉ်းလှပါသည်။ ပုတီးစိပ်ရာတွင် ဘုရားဂုဏ်တော် စသည် တစ်မျိုးမျိုးကို ရွတ်ဆိုရခြင်း၊ ပုတီးစေ့စိပ်ချရခြင်းဟူ၍ လုပ်ငန်းနှစ်ခုကို တစ်ပြိုင်နက်တည်း ပြုလုပ်ရသည့်အတွက် သမာဓိရဖို့ရန် မလွယ်ကူပါ။

**တရားထိုင်က၊ သမထ၊ တစ်ဝ ဝိပဿနာ၊**

**သမထမြင်၊ ဈာန်အစဉ်၊ ရလျှင် နိုင်ပေတာ၊**

**ဝိပဿနာဉာဏ်စဉ်၊ မဂ်ဖိုလ်မြင်၊ စံဝင် နိဗ္ဗူတာ။**

တရားထိုင်ခြင်းကတော့ သမထရော၊ ဝိပဿနာပါ ဘာဝနာနှစ်မျိုးစလုံးနှင့် သက်ဆိုင်၍ သမာဓိရလွယ်သောကြောင့် ဈာန်၊ မဂ်၊ ဖိုလ်တို့ကို ရနိုင်ပါသည်။ သမထဘာဝနာနှင့် ပတ်သက်၍ တရားထိုင်သောအခါ ‘ထွက်လေ၊ ဝင်လေ’ စသော အာရုံတစ်မျိုးတည်းကိုသာ စူးစိုက်မှတ်ရသောကြောင့် သမာဓိရလွယ်၍ ဈာန်တရားကို ရနိုင်ပါသည်။ ဝိပဿနာ ဘာဝနာမှာတော့ မျက်စိ၊ နား၊ နှာ၊ လျှာ၊ ကိုယ်၊ စိတ် ဒွါရခြောက်ပါးတို့၌ ပေါ်ရာ ပေါ်ရာ ထင်ရှားသော အာရုံတိုင်းကို ရှုမှတ်နေရသောကြောင့် ‘မတည်တံ့ဘဲ ပြောင်းလဲနေသော သဘောတရား၊ ဖောက်ပြန်ဆင်းရဲနေသော သဘောတရား၊ အစိုးမရ အနှစ်သာရမရှိသော သဘောတရား’တွေကို ဉာဏ်မျက်စိဖြင့် သိမြင်လာရ၍ မဂ်၊ ဖိုလ်၊ နိဗ္ဗာန်ကို ရနိုင်ပါသည်။



အမှတ် (၄၁)

ပျက်မြင်ဝါဒ၊ ပြောဆိုကြ၊ ဗုဒ္ဓဘာသာကို

ပြန်လည်ရှင်းရန်၊ မြတ်လမ်းမှန်၊ ညွှန်ကာ ပြစေလို။

*မေး ။ ။ အရှင်ဘုရား . .*

*ဗုဒ္ဓဘာသာသည် အပျက်မြင်ဝါဒကို အခြေခံသော ဘာသာတရားဟု အခြားဘာသာဝင်များက ပြောဆိုကြပါသည်။ တပည့်တော်များ ပြန်လည်ရှင်းလင်းပြနိုင်ရန် လမ်းညွှန်ပေးတော်မူပါဘုရား။*

*Tony (Daly City)*

ဖြေ ။ ။ **ဝိဘဇ္ဇဝါဒ၊ ခွဲကာပြ၊ ဗုဒ္ဓဘာသာဆို၊**

**ကြောင်းကျိုးဆက်သွယ်၊ ဖြစ်ပျက်ခြယ်၊ ဆုံးဝယ် နိဗ္ဗာန်ကို။**

'ဗုဒ္ဓဘာသာသည် အပျက်မြင်ဝါဒကို အခြေခံသော ဘာသာတရား'ဟု ပြောဆိုမှုသည် တိကျမှန်ကန်သော ပြောဆိုမှု မဟုတ်ပါ။ ဗုဒ္ဓဘာသာသည် အဖြစ်ရော၊ အပျက်ပါ နှစ်မျိုးလုံး၏ ကြောင်းကျိုးဆက်သွယ်မှုကို မြင်လျက် စိစစ်ဝေဖန်ခွဲခြမ်း၍ ယူသော ဝိဘဇ္ဇဝါဒကို အခြေခံသော ဘာသာတရား ဖြစ်သည်။ ကြောင်းကျိုးဆက်သွယ်မှဲ့ ကျားကျားမီးယပ် အယူဝါဒမျိုးကို လက်မခံပါ။ ပျက်သောအရာမှန်သမျှသည် ဖြစ်ပေါ်မှုမရှိဘဲ ပျက်ရသလော၊ ဖြစ်လာသော အရာမှန်သမျှကော မပျက်ဘဲ အမြဲတည်တံ့နေသလော။ ဖြစ်လာသောအရာ မှန်သမျှ ပျက်ရသည်၊ ပျက်သောအရာ မှန်သမျှလည်း ဖြစ်လာခဲ့ရသည်။ အဖြစ်ရှိ၍ အပျက်ရှိသည်။ အဖြစ်သည် အပျက်၏ ရေသောက်မြစ်ပင်။ အဖြစ်

မရှိလျှင် အပျက်မရှိနိုင်။ တစ်ချိန်က လောကဌ် ထင်ရှားကျော်ကြားခဲ့သော ဘာသာရေးခေါင်းဆောင်ကြီးများ၊ ပညာရှင်ကြီးများ၊ ဘုရင်မင်းတရားကြီးများ၊ သမ္မတကြီးများ၊ သူဌေးသူကြွယ်ကြီးများ ယနေ့ ရှိကြသေးသလော။ ယနေ့တိုင် ကျော်ကြားနေသော ပိရမစ်များ၊ ဘာသာရေး အဆောက်အအုံများ၊ ရဲတိုက်များကော နောက်ထပ် နှစ်ပေါင်းဘယ်လောက်ကြာအောင် တည်တံ့ခိုင်ခံ့နေကြဦးမည်နည်း။ တစ်နေ့တော့ မလွဲမသွေ ပျက်စီးကြရမည်သာ ဖြစ်သည်။ ဖြစ်ပျက်ကင်းရာသည် နိဗ္ဗာန်သာ ဖြစ်၏။ ထို့ကြောင့် ဗုဒ္ဓဘာသာသည် အဖြစ်ရော၊ အပျက်ပါ နှစ်မျိုးစလုံး၏ ကြောင်းကျိုးဆက်သွယ်မှုကို မြင်၍ စိစစ်ဝေဖန်ခွဲခြားယူဆသော ဝိဘဇ္ဇဝါဒကို အခြေခံလျက် ဖြစ်ပျက်ကင်းရာနိဗ္ဗာန်သို့ ပို့ဆောင်ပေးသော ဘာသာတရားဟု ပြောဆိုမှသာ တိကျမှန်ကန်သော ပြောဆိုမှု ဖြစ်ပါသည်။



## အမှတ် (၄၂)
## ညနေကျမှ၊ ဆွမ်းစွန့်ရ၊ ပြစ်က ရှိမည်လော ?

မေး ။ ။ အရှင်ဘုရား . .

တပည့်တော် အလုပ်မသွားမီ ဘုရားဆွမ်းတော်ကပ်ပြီး ညနေအလုပ်ပြန်မှ ဆွမ်းတော်ကို စွန့်ရပါသည်။ တပည့်တော်စိတ်ထဲ၌ အပြစ်ရှိလေမလားဟု သံသယဝင်မိပါ၍ ဆုံးမအကြံပေးတော်မူပါဘုရား။

ကြိုင်ကြိုင် (*South San Francisco*)

ဖြေ ။ ။ ယုံမှားကင်းဘိ၊ ပြစ်မရှိ၊ သတိချပ်ပါလေ။

အလုပ်မသွားမီ နံနက် ဘုရားဆွမ်းတော်တင်ပြီး ညနေ အလုပ်ပြန်မှ ဆွမ်းတော်စွန့်ရခြင်းကြောင့် အပြစ်မရှိပါ။ ဥပမာ- နံနက်အခါ သံဃာတော်များအား ဆွမ်းဆက်ကပ်လှူဒါန်း၍ သံဃာတော်များက ဘုဉ်းပေးတော်မူပြီးနောက် ကျန်နေသော ဆွမ်း၊ ဆွမ်းဟင်းလျာများကို မသိမ်းဆည်းဘဲ ထားသော်လည်း လှူဒါန်းသော ဒါယကာ၊ ဒါယိကာမတို့၌ အပြစ်မရှိသကဲ့သို့ နံနက်အခါ ဆွမ်းတော်စွန့်ချိန်မရ၍ ညနေကျမှ ဆွမ်းတော်စွန့်ရခြင်းသည် အပြစ်မရှိပါ။



အမှတ် (၄၃)

ပေဒင် လက္ခဏာ၊ ယူသည်းရာ၌၊ မြတ်စွာဓမ္မ၊ ရှုထောင့်မှလျှင်၊ သိကြစေဖို့၊ ခွင့်ခါသို့၊ ညွှန်ပို့ပေးတော်မူပါ ဘုရား။

မေး ။ ။ *အရှင်ဘုရား . .*

*ပေဒင်လက္ခဏာနှင့်ပတ်သက်၍ အယူသီးမှုကို တရားတော်ရှုထောင့်မှနေ၍ တပည့်တော်များအား သိကြားခွင့် ပေးသနားတော်မူပါဘုရား။*

*Michael (Fremont)*

ဖြေ ။ ။ ပေဒင်လက္ခဏာနှင့်ပတ်သက်၍ အယူသီးမှုသည် မကောင်းပါ။ ယင်းအယူသီးမှုက ကမ္မဿကတာသမ္မာဒိဋ္ဌိ (ကံသာလျှင် မိမိဥစ္စာ

အားကိုးရာရှိသည်ဟူသော ကောင်းသောဉာဏ်အမြင်) ကို ကန်းစေပါ၏။ ဗေဒင်လက္ခဏာအရ 'ဂြိုဟ်စီးဂြိုဟ်နင်း မကောင်းသောကြောင့် စီးပွားရေးအဆင်မပြေ၊ ပညာရေး ထိခိုက်မည်။ အိမ်ထောင်ရေး လမ်းကြောင်းပေါ် မှာ ကျွန်းခံနေသောကြောင့် အိမ်ထောင်ရေး ပျက်ပြားနိုင်သည်' ဟုဟောခဲ့လျှင် ယခုပင် ဒုက္ခရောက်တော့မည့်အတိုင်း စိတ်ဆင်းရဲရတော့၏။ ဟောစာတမ်းအတိုင်း ဖြစ်လာသည့်တိုင်အောင် 'ငါ့ရဲ့ အတိတ်ကံရှိန် အားနည်းလို့ ဖြစ်ရတာ၊ မျက်မှောက် အထောက်အပံ့ ကောင်းမှုကံပြုဖို့ လိုတယ်' ဟု မစဉ်းစားမိ။ ယတြာချေရန်အတွက် ဗေဒင်ဆရာထံ ချဉ်းကပ်ရပြန်၏။ ဆရာပေးသည့် ယတြာချေရသော အခါ မိမိ၏ ပကတိစေတနာသဒ္ဒါတရားအရ ဆောင်ရွက်ရတာ မဟုတ်ဘဲ စီးပွားရေး၊ ပညာရေး၊ အိမ်ထောင်ရေး အဆင်ပြေဖို့ပြုလုပ်ရတာမို့ ရသင့်ရထိုက်သော ကုသိုလ်အကျိုးကို ရလိမ့်မည်မဟုတ်ပါ။ ဗေဒင်လက္ခဏာအရ 'ဂြိုဟ်စီးဂြိုဟ်နင်းတွေ လက္ခဏာလမ်းကြောင်းတွေလည်း ကောင်းသောကြောင့် စီးပွားရေး၊ ပညာရေး၊ အိမ်ထောင်ရေး အစစအရာရာ အဆင်ပြေမည်ဟု ဟောလျှင် သိပ်ဝမ်းသာသည်။ ဟောစာတမ်းအရ ဖြစ်လာလျှင် 'မိမိ၏ အတိတ်ကံအရှိန်လည်း ကောင်း၍ မျက်မှောက် ကြိုးစားမှုလည်း ရှိသောကြောင့် အစစအရာရာ အဆင်ပြေနေတာကို သတိမမူမိကြ။ ဂြိုဟ်စီးဂြိုဟ်နင်းကောင်း၍၊ လက္ခဏာလမ်းကြောင်းတွေ ကောင်း၍ ကြီးပွားတာ၊ ပညာရေး တိုးတက်တာ၊ အိမ်ထောင်ရေး အဆင်ပြေတာ'ဟု ဗေဒင် လက္ခဏာကိုသာ အားကိုးတော့သည်။

'နက္ခတ် မကောင်းဟူသော စကားကြောင့် ဇနီးလောင်း ဆုံးရှုံးရသော ဇာတ်လမ်းတစ်ပုဒ်' ရှိခဲ့ဖူးပါသည်။ ရှေးအခါက ဗာရာဏသီမြို့သား

နှင့် ဇနပုဒ်သူတို့ ထိမ်းမြားမင်္ဂလာ နေ့ရက် သတ်မှတ်ပြီးကာမှ မြို့သား၏ ဗေဒင်ဆရာက 'ထိုနေ့သည် နက္ခတ်မကောင်း၊ အကယ်၍ ထိမ်းမြား လက်ထပ်ကြလျှင် ပျက်စီးခြင်းကြီးစွာ ကြုံတွေ့ကြရလိမ့်မည်'ဟု ပြောဆိုသောကြောင့် မြို့သားသည် ထိမ်းမြားမင်္ဂလာနေ့၌ မသွားဘဲ နေခဲ့၏။ ဇနပုဒ်သူ၏ မိဘတို့သည် မင်္ဂလာနေ့၌ မြို့သား (သတို့သား) မလာသောကြောင့် မိမိတို့၏ သမီးကို အခြား အမျိုးသားတစ်ယောက်နှင့် ပေးစားလိုက်ကြရ၏။

'သတ်မှတ်ထားသော ထိမ်းမြားမင်္ဂလာနေ့သည် နက္ခတ်မကောင်း' ဟူသော စကားကြောင့် နောက်နေ့မှ ရောက်လာသော မြို့သားသည် ဇနီးလောင်း ဆုံးရှုံးခဲ့ရလေသည်။ ယင်းဖြစ်ကြောင်းကုန်စင်ကို သိသော ပညာရှိတစ်ဦးက 'နက္ခတ်သည် အဘယ်အကျိုးရှိအံ့နည်း။' သတို့သမီးကို ရခြင်းသည်ပင် နက္ခတ်ကောင်း မဟုတ်ပါလော။

**နက္ခတ္တံ ပဋိမာနေန္တံ၊ အတ္ထော ဗာလံ ဥပစ္စဂါ။**

**အတ္ထော အတ္ထဿ နက္ခတ္တံ၊ ကိံ ကရိဿန္တိ တာရကာ။**

(ဇာတကဋ္ဌကထာ၊ ပထမတွဲ၊ နက္ခတ္တဇာတ်၊ ၂၇၅-၂၇၆။)

နက္ခတ်ကောင်းကို စောင့်ဆိုင်းငံ့လင့်သော လူမိုက်သည် သတို့သမီးကို ရခြင်းဟူသော အကျိုးမှ ဆုတ်ယုတ်ခဲ့ရ၏။ လိုအပ်သောအကျိုးသည် အလိုရှိသောသူ၏ နက္ခတ်ကောင်းပင် ဖြစ်၏။ ကောင်းကင်မှ ကြယ်တာရာတို့သည် အဘယ်အကျိုးကို ပြုစေနိုင်ကုန်အံ့နည်း။ (တစ်စုံတစ်ခု အကျိုးကို မပြုစေနိုင်ပါကုန်။) ဟု သတိပေးစကား ဆိုခဲ့ဖူးပါသည်။

အဲဒီဇာတ်တော်နှင့် စပ်သွယ်၍ ယခုခေတ်မှာလည်း ပြုသင့်တဲ့ အချိန် မပြုဘဲ ရက်ကောင်း အခါကောင်း ရွေးနေတဲ့အတွက် အကျိုးမဲ့ ဖြစ်တာရှိကြောင်းကို ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီးက

မိန့်တော်မူဖူးပါသည်။ 'လွန်ခဲ့တဲ့ နှစ်နှစ်၊ သုံးနှစ်လောက်က မြိတ်မြို့မှ ဒကာမကြီးတစ်ယောက်ဟာ မျက်စိရောဂါအတွက် ရန်ကုန် လာရောက်ပြီး ကုသဖို့ရှိရာ ရက်ကောင်း ရွေးနေတာနဲ့ ရက်အနည်းငယ် နောက်ကျသွားသောကြောင့် ရန်ကုန် ရောက်လာတဲ့အခါ ဆရာဝန်များက ကုသမပေးနိုင်တော့ဘဲ အကျိုးမဲ့ ဖြစ်သွားရတယ်လို့ ရင်းနှီးသော ဒကာဒကာမများထံမှ ကြားသိရဖူးတယ်။ အဲဒါလည်း အထူးသတိပြုစရာ အချက်တစ်ခုပါပဲ။ အဲဒါဟာ မင်္ဂလာကို အလေးပြုနေလို့ အကျိုးမဲ့ဖြစ်ရတာပဲ' တဲ့။ (သမ္မာပရိဗ္ဗာဇနီယသုတ်)

ရှေးခေတ်ရော၊ ယခုခေတ်ပါ ယင်းသို့ ဗေဒင် လက္ခဏာများနှင့် ပတ်သက်သော အယူသီးမှုများသည် အတိတ်ကံရှိန်ကိုလည်း သတိမမူ၊ ပစ္စုပ္ပန် (မျက်မှောက်)ကံကိုလည်း အားမထား၊ အနာဂတ်ဘဝအတွက်လည်း ဘာတွေ ပြင်ဆင်ထားရမည်ကို ဗေဒင် လက္ခဏာဆရာက ဟောမပေး၍ လေးလေးနက်နက် မစဉ်းစားမိသောကြောင့် **ကမ္မဿကတာ သမ္မာဒိဋ္ဌိဉာဏ်ကိုပင်** ဖုံးကွယ်သွားတတ်ပါသည်။



## အမှတ် (၄၄)

### ဘုရားအရုပ်တော်၊ ကျမ်းဂန်ဖော်၊ ညွှန်းတော်မူပါဘုရား။

မေး ။ ။ အရှင်ဘုရား . .

မြတ်စွာဘုရား၏ ခြေတော်ရာများကို ဖူးတွေ့ရာ၌ လူသာမန်၏ ခြေရာထက် အဆများစွာ ကြီးမားနေသည်ကို တွေ့ရပါသည်။ ထိုခြေတော်ရာနှင့် လိုက်လျောသော အရပ်တော်ရှိရ

မည်ဖြစ်သောကြောင့် မြတ်စွာဘုရား၏ အရပ်တော်ပမာဏ ကို သိလိုပါသည်ဘုရား။

မောင်ဇော် (Redwood City)

ဖြေ။ ။ မြတ်စွာဘုရား၏ ခြေဖဝါးတော်၌ တစ်ရာ့ရှစ်ကွက် စက်လက္ခဏာများ ပါရှိ၍ ထိုလက္ခဏာတော်များကို ထင်ထင်ရှားရှား ဖူးမြင်နိုင်ရန် လူသာမန်၏ ခြေရာထက် အဆများစွာ ကြီးမားလျက် ထုလုပ်ထားခြင်း ဖြစ်ပါသည်။

မြတ်စွာဘုရား၏ အရပ်တော်ပမာဏနှင့် ပတ်သက်၍ အမရပူရ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး၏ ရတနာ့ဂုဏ်ရည်ကျမ်းလာ အဆုံးအဖြတ်များကို မှီငြမ်းလျက် ဖြေဆိုပါမည်။ မြတ်စွာဘုရား၏ အရပ်တော်ကို ဗုဒ္ဓဝင်ပါဠိတော်၌ သောဠသဟတ္ထုဗ္ဗေဓ (သောဠသ = ၁၆ + ဟတ္ထ = အတောင် + ဥဗ္ဗေဓ = အမြင့်) ၁၆ တောင်ဟု ဆိုပါသည်။ များစွာသော အဋ္ဌကထာတို့၌ အဋ္ဌာရသ ဟတ္ထုဗ္ဗေဓ = ၁၈ တောင်ဟု ဆိုပါသည်။ သုတ်မဟာဝဂ္ဂဋီကာ၌ ဒွါဒသဟတ္ထော = ၁၂ တောင်ဟု ဆိုပါသည်။ မည်သည့်ဝါဒကိုပင် ယူစေကာမူ အရပ်တော် မြင့်မားလှသော ဘုရားရှင်ကို ဆွမ်းလောင်းခြင်း၊ ဆွမ်းကျွေးခြင်း စသော အမှုကိစ္စများကို ပြုလုပ်ရန် လွယ်ကူလိမ့်မည် မဟုတ်ပါ။

အချို့ သီဟိုဠ်ဆရာတော်များက 'ဟတ္ထသဒ္ဒါ' ကို 'မိုက်' ဟု အနက်ပြန်ဆို၍ ၁၈ မိုက် ၆ တောင်ရှိ၏ဟု ယူကြ၏။ ယိုးဒယား သာသနာပိုင်ဆရာတော်ကတော့ 'မြတ်စွာဘုရား၏ အရပ်တော်သည် ပကတိလူများထက် ထူးခြားစွာ မမြင့်' ဟု ဆုံးဖြတ်၏။ အမရပူရ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီးကလည်း 'မြတ်စွာဘုရားအရပ်တော်သည် ပကတိလူများထက် ထူးခြားစွာ မမြင့်' ဟုပင် ယူတော်မူ၏။

မြတ်စွာဘုရား ပရိနိဗ္ဗာန်စံတော်မူသည်မှာ နှစ်ပေါင်း ၂၅၄၉ နှစ် ကျော်ခဲ့ပြီဖြစ်၍ ထိုခေတ်က လူများသည် ယခုခေတ် လူများထက် အနည်းငယ် ကြီးမားချင် ကြီးမားနိုင်သော်လည်း ယခုခေတ် အရပ် အမောင်းကောင်းလှသော လူများထက် တစ်တောင့်ထွာ နှစ်တောင် ပိုလွန်အောင်ကား မမြင့်မားနိုင်။ ကျောက်စာဌာနမှ ရှာဖွေတွေ့ရှိချက် အရ 'ဘုရားရှင် သီတင်းသုံးတော်မူခဲ့သော ကျောင်းတံခါးပေါက်များမှာ ယခုခေတ် တံခါးပေါက်များထက် ပို၍မကျယ်ဝန်းခြင်း၊ သပိတ်များလည်း ငယ်ငယ်ပင် တွေ့ရှိရခြင်း၊ ပဋ္ဌမသံဂါယနာတင်ရာ စရည်းပင်လိုဏ်ဂူ အပေါက်မှာ ၆ ပေလောက်သာ ကျယ်ခြင်း၊ ထိုရှေးက လူရိုးများမှာ ယခု လူရိုးများထက် မကြီးမားခြင်း'တို့ကို သိရသောကြောင့် ဘုရားရှင် လက်ထက်တော်က လူများသည် ယခုကာလ လူတို့ထက် မမြင့်ဟု ယူဆ ကြသည်။ ဘုရားရှင်လည်း ထိုခေတ်က လူအများတွင် အရပ်အမောင်း မားမားမတ်မတ်ရှိသော ပုဂ္ဂိုလ်တစ်ပါးပင် ဖြစ်၏။ အကယ်၍ အခြား လူများထက် ပို၍မြင့်မားလွန်းတော်မူလွန်းသည် ဖြစ်အံ့။ (၁) အဆင်း မည်းလွန်းခြင်း၊ (၂) ဖြူလွန်းခြင်း၊ (၃) ဝလွန်းခြင်း၊ (၄) ပိန်လွန်းခြင်း၊ (၅) အရပ်နိမ့်လွန်းခြင်း၊ (၆) အရပ်မြင့်လွန်းခြင်းဟူသော အပြစ် ၆ ပါး တို့တွင် အရပ်မြင့်လွန်းသော အပြစ်ရှိရာ၏။ အမှန်အားဖြင့် ဘုရားရှင်၏ အရပ်တော်သည် မနိမ့်မမြင့်သာ ဖြစ်၏။ အလောင်းတော် သိဒ္ဓတ္ထ မင်းသားအနေနဲ့ ယသော်ဓရာမင်းသမီးကို လက်ထပ်စဉ်က အကယ်၍ သာ မင်းသားက အရပ်မြင့်လွန်းနေလျှင် ဘယ်လိုမှ လိုက်ဖက်သော ကြင်ဖော်မောင်နှံ ဖြစ်ခဲ့လိမ့်မည် မဟုတ်။ သူလိုကိုယ်လို ရုပ်တော်ရှယ် တော်မျှသောကြောင့်သာ လက်ထပ်ခဲ့ရာ၏။

'ဘုရားဖြစ်မှ အရပ်တော် မြင့်သွားသည်။ မင်းသားဘဝတုန်းက သူလိုကိုယ်လိုပါပဲ'ဟု ဆိုပြန်ပါမူ ဘုရားဖြစ်ပြီးခါစ ဥပကတက္ကတွန်းနှင့်

တွေ့စဉ် ဥပကတက္ကတွန်းက ဘုရားရှင်ကို ရဟန်းတစ်ပါးဟုသာ မှတ်ထင်ခဲ့သည်။ အလားတူပင် ပုဏ္ဏားတစ်ယောက်သည် ယဇ်ပူဇော်ပြီးနောက် ပုဏ္ဏားတို့အား ယဇ်စာကိုကျွေးဖို့လိုက်ရှာရာတွင် သစ်ပင်အောက်မှာ ခေါင်းမြီးခြုံ၍ ထိုင်နေတော်မူသော ဘုရားရှင်ကို ပုဏ္ဏားထင်၍ အနီးသို့ကပ်သွားလေရာ ခေါင်းမြီးခြုံကို ဖွင့်လိုက်မှ ရဟန်းမှန်း သိသဖြင့် ပြန်သွားမည်ပြုသည် *(သဂါထာဝဂ္ဂသံယုတ်၊ သုန္ဒရိကသုတ်)*။ အကယ်၍ အရပ်တော် ၁၈ တောင် မြင့်အံ့၊ ထိုင်နေတော်မူသော ဘုရားရှင်သည် မန္တလေးမြို့ မဟာမုနိရုပ်ပွားတော်လောက် မြင့်ဖွယ်ရှိသောကြောင့် 'ပုဏ္ဏားလေလား'ဟု အထင်မမှားသင့်ပါ။ မာဂဏ္ဍီပုဏ္ဏားသည် သမီးချောအတွက် သမက်ရှာရာတွင် ဘုရားရှင်ကို တွေ့သောအခါ အကယ်၍ သမီးနှင့် အရွယ်ချင်း အရပ်ချင်း အလွန်အမင်းကွာခြားနေလျှင် သမက်ဖမ်းဖို့ မမှန်းတန်ရာ *(ဓမ္မပဒအဋ္ဌကထာ၊ သာမာဝတီဝတ္ထု၊ ၁၂၈-၁၂၉)*။

*လူ့ပြည်၌ရှိကြသော ခြေရာတို့တွင် ဆင်၏ခြေရာသည် အကြီးဆုံးဟု ဘုရားရှင် ဟောတော်မူ၏။ အကယ်၍ ၁၈ တောင် မြင့်အံ့။ ဘုရားရှင်၏ ခြေရာတော်သည် နှစ်တောင်ကျော်ကျော် ရှိမည်ဖြစ်၍ ဆင်ခြေရာထက်ပင် ကြီးရာသောကြောင့် 'ငါဘုရား၏ခြေရာသည် အကြီးဆုံး' ဟု ဟောတော်မူသင့်၏ (မူလပဏ္ဏာသ၊ မဟာဟတ္ထိပဒေါပမသုတ်)*။

ဤသို့သော အထောက်အထားများအရ ဘုရားရှင်သည် ထိုခေတ် လူများထက် ထူးခြားစွာ မြင့်တော်မမူ။ ထိုခေတ်က လူအများမှာလည်း ယခုခေတ် အရပ်ထောင်ထောင်မောင်းမောင်း ရှိသူများထက် များစွာ မကွာခြားသင့်သောကြောင့် ဘုရားရှင်၏ အရပ်တော်သည် ၁၈ တောင် မြင့်၏ စသော အယူဝါဒများကို ဆင်ခြင်သင့်ပါသည်။

ဘုရားရှင်သည် ဝါဝင်းသော အဆင်းတော်ရှိ၏။ ကိုယ်တော်မြတ်၏ ဝါဝင်းသော အရောင်တော်သည် ထက်ဝန်းကျင်နှင့်တကွ အထက်သို့ တက်နေရာ မှောင်သောအရပ်၌ ၁၈ တောင်၊ ၁၆ တောင်ခန့် ရှိသည်ဟု ထင်ရပေသည်။ ထို့ကြောင့် ပါဠိတော်နှင့် အဋ္ဌကထာတို့၌ အထက်သို့ အမြဲတက်နေသော ကိုယ်တော်အရောင်နှင့်တကွ မှန်းဆရေတွက်၍ ၁၈ တောင်၊ ၁၆ တောင် မြင့်ကြောင်းကို မိန့်ဆိုကြဟန်တူသည်ဟု အမရပူရ မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး၏ အဆုံးအဖြတ်များကို ဦးထိပ်ပန်ဆင်၍ မြတ်စွာဘုရား၏ အရပ်တော် ပမာဏကို နားလည်နိုင်ပါသည်။



အမှတ် (၄၅)

သက်ပေါင်းများစွာ၊ သတ်ခဲ့ပါ၊ မည်မှာ အင်္ဂုလိမာလ။
ရဟန္တာဖြစ်၊ ကြောင်းကိုလှစ်၊ စိစစ်ပေးတော်မူပါဘုရား။

မေး ။ ။ အရှင်ဘုရား . .

ဗုဒ္ဓစာပေ၌ အင်္ဂုလိမာလသည် လူ့အသက်ပေါင်းများစွာကို သတ်ခဲ့သော်လည်း ထိုဘဝ၌ပင် ရဟန္တာဖြစ်သွားသည်ကို ဖတ်ဖူးပါသည်။ ထိုအချက်ကို ရှင်းပြတော်မူပါဘုရား။

မောင်မောင် *(Daly City)*

ဖြေ ။ ။ ကွယ်လွန်ပြီး နောက်ဘဝ၌ ပဋိသန္ဓေအကျိုးကို ပေးမည့်ကံများအနက် ဂရုကကံ (ကြီးလေးသောကံ) သည် အထက်ဆုံး ဖြစ်၏။

ကုသိုလ်ကံအရာဝယ် မဟဂ္ဂုတ်ကုသိုလ်ကံ (ဈာန်ကုသိုလ်ကံ) များ ဖြစ်၍ အကုသိုလ်ကံအရာဝယ် အပြစ်ကြီးလေးလှသော အနန္တရိယကံများ (အမိ သတ်ခြင်း၊ အဖ သတ်ခြင်း၊ ရဟန္တာ သတ်ခြင်း၊ ဘုရား သွေးစိမ်းတည်အောင် ပြုခြင်းနှင့် သံဃာ သင်းခွဲခြင်း) နှင့် နိယတမိစ္ဆာဒိဋ္ဌိ (ကံ၊ ကံ၏အကျိုး မယုံကြည်သော အယူမှားမှုကံ) တို့ ဖြစ်၏။ အကုသိုလ်ဂရုကကံ တစ်ခုခုကိုပြုမိခဲ့လျှင် နောက်ထပ် ဒါနတွေ ဘယ်လိုပင်ပြုပြု၊ သီလတွေ ဘယ်လိုပင် ဆောက်တည်ဆောက်တည်၊ ကမ္မဋ္ဌာန်းတရားတွေ ဘယ်လိုပင် အားထုတ်အားထုတ် ထိုကုသိုလ်ကံတွေက အကုသိုလ်ဂရုကကံကို အကျိုးမပေးအောင် မတားဆီးနိုင်ကြပါ။ ထိုဂရုကကံက ပိတ်ပင်ထားသောကြောင့် ဈာန်၊ မဂ်၊ ဖိုလ်တို့ကို ရပိုင်ခွင့်လည်း မရှိပါ။ အကယ်၍ အင်္ဂုလိမာလသည် မိခင်ကို သတ်မိခဲ့လျှင်တော့ လုံးဝ ရဟန္တာဖြစ်နိုင်ခွင့် မရှိပါ။ သို့သော် ဘုရားရှင်က အင်္ဂုလိမာလ၏ ရဟန္တာဖြစ်ကြောင်း ပါရမီရင့်ကျက်နေသည်ကို မြင်တော်မူ၍ မိခင်ကို မသတ်ဖြစ်အောင် ဝင်ရောက်ကယ်တင်လိုက်ခြင်း ဖြစ်၏။

ဤနေရာတွင် ကုသိုလ်တို့၏သဘာဝကို စဉ်းစားသင့်၏။ ကုသိုလ်သည် ကာမာဝစရကုသိုလ်၊ မဟဂ္ဂုတ် (ဈာန်) ကုသိုလ်နှင့် မဂ် (လောကုတ္တရာ) ကုသိုလ်ဟူ၍ သုံးမျိုး ရှိ၏။ ကာမာဝစရကုသိုလ်သည် ဒါန၊ သီလ၊ ဘာဝနာ စသည်တို့ကို ပြုလုပ်ရာ၌ ပါဝင်သော ကုသိုလ်မျိုး ဖြစ်၍ ထိုကုသိုလ်စိတ်တွေ ဖြစ်ခိုက်ခဏမှာသာ အကုသိုလ်စိတ်များ မဝင်နိုင်၊ အကုသိုလ်ကို ခေတ္တပယ်ထားနိုင်၏။ ထို့ကြောင့် ကာမာဝစရကုသိုလ်ကို တဒင်္ဂပဟာန် (တစ်ခဏတာမျှ အကုသိုလ်ကို ပယ်နိုင်သောကုသိုလ်)- ဟု ခေါ်၏။ မဟဂ္ဂုတ်ကုသိုလ်က ကမ္ဘာပေါင်း ထောင်သောင်းကြာအောင် အကုသိုလ်ကို ခွါထားပယ်ထားနိုင်၏။ သို့သော်

အမြစ်ပြတ်အောင်တော့ မပယ်သတ်နိုင်သေးပါ။ ထို့ကြောင့် မဟဂ္ဂုတ်ကုသိုလ်ကို ဝိက္ခမ္ဘနပဟာန် (အကုသိုလ်ကို ကြာကြာခွါထား ပယ်ထားနိုင်သော ကုသိုလ်) ဟု ခေါ်၏။ မဂ်ကုသိုလ်ကတော့ အကုသိုလ်ကို လုံးဝအကျိုးမပေး ဆိတ်သုဉ်းသွားအောင် ပယ်သတ်နိုင်၏။ ထို့ကြောင့် မဂ်ကုသိုလ်ကို သမုစ္ဆေဒပဟာန် (အကုသိုလ်ကို အကြွင်းမဲ့ပယ်သတ်နိုင်သော ကုသိုလ်) ဟု ခေါ်၏။ *(အဋ္ဌသာလိနီအဋ္ဌကထာ၊ ၃၈၆-၃၈၇။ ပဋိသမ္ဘိဒါမဂ္ဂဋ္ဌကထာ၊ ဒုတိယတွဲ၊ ၅၃။)*

အထက်ပါ အချက်အလက်များကို ထောက်ထား၍ အင်္ဂုလိမာလသည် လူပေါင်းများစွာကို သတ်ခဲ့သော်လည်း တစ်စုံတစ်ခုသော အကုသိုလ်ဂရုကကံကို မကျူးလွန်မိမူ၍ ပါရမီကုသိုလ်ကို အမှီပြုသော တရားဘာဝနာ အားထုတ်မှုစွမ်းအားဖြင့် အရဟတ္တမဂ်ကို ရ၏။ ထိုမဂ်ဖြင့် မိမိ ပြုလုပ်မိခဲ့သော အကုသိုလ်ကံများကို အကြွင်းမဲ့ ပယ်သတ်လိုက်သည့်အတွက် နောက်ဘဝ ပဋိသန္ဓေနေရမှု ဒုက္ခမရှိတော့ဘဲ အကုသိုလ်ကံကြွင်းအနေဖြင့် ယခုဘဝမှာပင် ဆွမ်းခံသွားရာ၌ လူတို့က အိမ်တံခါး ပိတ်ထားခြင်း၊ ဆွမ်း ယာဂု စသော စားဖွယ်များကို မလောင်းမလှူခြင်း၊ အုတ်ခဲ လှင်ကန်တို့ဖြင့် ပစ်ခတ်၍ ခေါင်းပေါက်ခြင်း စသော အကျိုးဆက်များကိုသာ ခံစားခဲ့ရပါသည်။



## အမှတ် (၄၆)

အခါတစ်ပါး ဘုရားရှင်သည် ရာဇဂြိုဟ်မြို့အနီး ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် ဘာရဒွါဇနွယ်ဖွား ပုဏ္ဏားတစ်ယောက်၏ ရဟန်းပြုခြင်းနှင့် ပတ်သက်၍ အက္ကောသက ဘာရဒွါဇမည်သော ပုဏ္ဏားက ဘုရားရှင်ထံသို့လာ၍ ကြမ်းကြုတ်သော စကားတို့ဖြင့် ဆဲရေးခြိမ်းခြောက်၏။ ဘုရားရှင်သည် အက္ကောသက ဘာရဒွါဇပုဏ္ဏားအား—

"အသင်ပုဏ္ဏား၊ သင့်ထံလာသော အဆွေခင်ပွန်း ဆွေမျိုးသားချင်းတို့အား စားဖွယ်သောက်ဖွယ်များကို ပေးသောအခါ အကယ်၍ သူတို့ လက်မခံကြလျှင် ထိုပစ္စည်းများသည် မည်သူ့ထံ ရောက်မည်နည်း" ဟု မေးတော်မူ၏။

အက္ကောသက ဘာရဒွါဇပုဏ္ဏားက—

"ရဟန်းဂေါတမ၊ အကယ်၍ သူတို့က လက်မခံကြလျှင် ထိုပစ္စည်းများသည် ကျွန်ုပ်ထံသို့သာ ပြန်ရောက်ပါမည်" ဟု ပြောလေ၏။

ဘုရားရှင်က—

"အသင်ပုဏ္ဏား၊ ထို့အတူပင် သင်သည် မဆဲရေးထိုက်သော ငါတို့ကို ဆဲရေး၏။ မချုပ်ချယ်ထိုက်သော ငါတို့ကို ချုပ်ချယ်၏။ မခြိမ်းခြောက်ထိုက်သော ငါတို့ကို ခြိမ်းခြောက်၏။ သင်၏ ထိုဆဲရေးခြင်း စသည်တို့ကို ငါတို့ မခံယူသည့်အတွက် သင့်ထံသို့သာ ပြန်ရောက်၏။

၁။ အမျက်မထွက်၊ ပုဂ္ဂိုလ်တွက်၊ အမျက် ကျိုးမရှိ။

၂။ မိမိပေးထား၊ ပစ္စည်းများ၊ ယူငြားသူမရှိ။

၃။ ပေးသူ့ထံသာ၊ ပြန်ရောက်လာ၊ ပမာထုံးကိုကြည့်။

၄။ မိမိမျက်မာန်၊ လက်မခံ၊ ကိုယ့်ထံ ပြန်လာဘိ။

၅။ တုံ့ပြန်အမျက်၊ ဘယ်မထွက်၊ ရန်ဘက် အောင်နိုင်၏။

၆။ အပြန်အလှန်၊ မျက်ထွက်ပြန်၊ နှစ်တန် ယုတ်မာ၏။

၇။ သူ့အမျက်များ၊ ငြိမ်းစေငြား၊ နှစ်ပါး အကျိုးရှိ။"

စသည်ဖြင့် ဟောတော်မူသောအခါ အက္ကောသက ဘာရဒွါဇ ပုဏ္ဏားသည် အမြင်မှန်ရလျက် ဘုရားရှင်အထံတော်၌ ရဟန်းအဖြစ်ကို ခံယူပြီးလျှင် မမေ့မလျော့ ပြင်းထန်စွာ တရားအားထုတ်လေရာ မကြာမီ ရဟန္တာ ဖြစ်ခဲ့လေသည်။[၆၇]



[၆၇] သဂါထာဝဂ္ဂသံယုတ်ပါဠိတော် အက္ကောသသုတ် (သံ၊ ၁၊ ၁၆၃-၁၆၅။)
မဇ္ဈိမပဏ္ဏာသပါဠိတော်၊ အင်္ဂုလိမာလသုတ်၊ (၃၀၁-၃၀၂။)၊ မဇ္ဈိမပဏ္ဏာသအဋ္ဌကထာ၊ (၂၂၆-၂၄၇။)

# နိဂုံးထက်ဝယ် တောင်းဆုခြွယ်

၁။ အမေရိကန်၊ တိုင်းနိုင်ငံ၊ ခေါ်ရန်ပြည်ကြီးမှာ။

၂။ ကယ်လီဖိုးနီးယား၊ ပြည်နယ်ကား၊ ကြီးမားလုပေတာ။

၃။ လခြမ်းပုံကွယ်၊ သဏ္ဌာန်နှယ်၊ တည်သွယ်ကြောင်းရင်းသာ။

၄။ ဟာ့မွန်းဗေးလို့၊ ခေါ်သည့်မြို့၊ ငါတို့နေထိုင်ရာ။

၅။ ဓမ္မာနန္ဒ၊ ဝိဟာရ၊ ခေါ်ကြကျောင်းတိုက်မှာ။

၆။ လေးယာပထ၊ လွန်မျှတ၊ နေရချမ်းသာစွာ။

၇။ ဘာသာနှင့်စပ်၊ မေးခွန်းရပ်၊ ဖြေလတ်အဖြာဖြာ။

၈။ အန္တွတ္ထမီ၊ ကျမ်းအမည်၊ ခေါ်သည်ဤသို့ပါ။

၉။ 'ဘာသာရေးပြဿနာ မေး ဖြေရာ'၊ ဝေါဟာသတ်မှတ်ပါ။

၁၀။ ထောင့်သုံးရာဂယ်၊ ခြောက်ခြောက်သွယ်၊ လဝယ်ပြာသိုပါ။

၁၁။ ဤစာရေးပြီး၊ မှတ်ဖွယ်တည်း၊ ခေါ် မှီးထိုချိန်ခါ။

၁၂။ စာရေးပါရ၊ မြတ်ပုည၊ တောင်းထပတ္တနာ။

၁၃။ သူမေးသမျှ၊ ဖြေနိုင်ရ၊ တောင့်တအခါခါ။

၁၄။ ထက်မြက် လျှင်မြန်၊ နက်နဲဉာဏ်၊ မှတ်ဉာဏ်ကောင်းလိုပါ။

၁၅။ ထိုဉာဏ်များတွက်၊ မှားမဖက်၊ အားတက်စေဖို့ပါ။

၁၆။ ဆုံးဘဝတွင်၊ ခြောက်ဘိညာဉ်၊ လေးအင်သမ္ဘိဒါ။

၁၇။ ဟေ ဘိက္ခု၊ ခေါ်ယူမှု၊ ထူးပြုရဟန္တာ။

၁၈။ ဤစာငွေပန်း၊ ကောင်းမှုစွမ်း၊ တက်လုမ်းနိဗ္ဗူတာ။

၁၉။ ကောင်းမှုထွေထွေ၊ အမျှဝေ၊ ရစေများသတ္တာ။

၂၀။ သာဓု သာဓု သုံးကြိမ်ပြု၊ ခေါ်မှုဝေဝေဆာ။




အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ

ဦးဇောတာလင်္ကာရ


# ဘာသာရေးပြဿနာ မေးဖြေ

အမေရိကန်နိုင်ငံ ကယ်လီဖိုးနီးယားပြည်နယ် ဟာ့မွန်ဗေးမြို့
ဓမ္မာနန္ဒဝိဟာရကျောင်းတိုက် အမေရိက ထေရဝါဒ ဗုဒ္ဓဘာသာအသင်းကြီးမှ
ထုတ်ဝေသော Dhammananda Newsletter ဓမ္မာနန္ဒစာစောင်မှ
အမေးအဖြေများ

design Antt Bwere (stars)


ဦးဇောတာလင်္ကာရ • ဘာသာရေးပြဿနာမေးဖြေ